၃(၁၂) မည်သူ့ကိုမဆို ဝန်ဆောင်မှုရငွေအတွက်၊ ဝန်ဆောင်မှုဆောင်ရွက်ရန် ငှားရမ်းမှု သို့မဟုတ် ကုမ္ပဏီလုပ်ငန်း၏ လမ်းစဉ် သို့မဟုတ် ချမှတ်ခြင်း သို့မဟုတ် အသင်းဝင်ကြေးများရယူခြင်း သို့မဟုတ် တစ်နည်းအားဖြင့် ကုမ္ပဏီအားဖြင့် သို့မဟုတ် ကုမ္ပဏီကို အတိုးငွေပေးသည့် ငှင်းအရာအားဖြင့် ဖွဲ့စည်း သို့မဟုတ် မြှင့်တင်ခဲ့သည့် ကုမ္ပဏီ၏ သို့မဟုတ် အခြားကုမ္ပဏီ၏ လုံခြုံမှုများကိစ္စ၌ ပါဝင်ကူညီခြင်း သို့မဟုတ် ရှေ့ကပြောထားသည့်အတိုင်း ကုမ္ပဏီ၏ သို့မဟုတ် အခြားကုမ္ပဏီ၏ ဖွဲ့စည်းခြင်း သို့မဟုတ် တိုးမြှင့်ခြင်းနှင့် ပင်စင်ခများ၊ သက်သာခွင့်များ၊ သဒ္ဒါကြေးများနှင့် အခြားပေးချေမှုများ ခွင့်ပြု သို့မဟုတ် စီစဉ်ပေးရန်နှင့် မည်သည့်သဘောသဘာဝ၏ အကျိုးအမြတ်များ သို့မဟုတ် မည်သူ့အတွက်မဆိုနှင့် အာမခံများအားဖြင့် ပေးချေမှုများပြုလုပ်ရန် သို့မဟုတ် တစ်စုံတစ်ဦးအား အကျိုးပြုနိုင်ဖွယ်ရှိသည့် အစီအမံများ သို့မဟုတ် ကုမ္ပဏီ၏ သို့မဟုတ် ၎င်း၏အဖွဲ့ဝင်များ၏ အတိုးများကို တိုးပွား ပြုမှုရန် အခကြေးငွေ သို့မဟုတ် လျော်ကြေး သို့မဟုတ် ဆုကြေးပေးခြင်း (ငွေသားဖြင့် သို့မဟုတ် ဒါရိုက်တာများမှ သင့်တော်သည်ဟု ယူဆသည့် အခြားသောပုံစံဖြင့်) သို့မဟုတ် စေနိုင်ဖွယ်ရှိသောနှင့် ထောက်ခံရန်၊ အာမခံရန် သို့မဟုတ် အခြားရည်ရွယ်ချက်အတွက် ပိုက်ဆံပေးချေမှု၊ တိုက်ရိုက်ဖြစ်စေ သို့မဟုတ် သွယ်ဝိုက်၍ဖြစ်စေ၊ ကုမ္ပဏီ၏ သို့မဟုတ် ၎င်း၏အဖွဲ့ဝင်များ၏ နောက်ထပ်အတိုးများ သို့မဟုတ် မည်သည့်နိုင်ငံသားအတွက်မဆို၊ကုသိုလ်ရေး၊ ပညာရေး၊ လူမှုရေး၊ အများပြည်သူအတွက် အထွေထွေ သို့မဟုတ် အသုံးဝင်သောရည်ရွယ်ချက်များအလို့ငှာ အခကြေးငွေများပေးချေရန်။

၃(၁၃) ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ကုမ္ပဏီတည်ထောင်ခြင်း၊ မြှင့်တင်ခြင်းနှင့် ဆက်နွယ်၍ သို့မဟုတ် ကနဦး အသုံးစရိတ်များကိုပေးရန်။

၃(၁၄) စီးပွားရေးလုပ်ငန်း တစ်ခုကိုသော်လည်းကောင်း စီးပွားရေး အစိတ်အပိုင်းတစ်ခုကိုသော်လည်းကောင်း ဆောင်ရွက်ရန်၊ ရယူရန်နှင့်ဝယ်ယူရန်၊ ကောင်းမွန်သော လိုလားဆန္ဒဖြင့် တစ်စုံတစ်ယောက်၏ တာဝန်များနှင့်ပစ္စည်းများ၊ ကုမ္ပဏီနှင့်စီးပွားရေးလုပ်ငန်းများ၊ အကျိုးမြတ်ရယူရန်၊ အစုစပ်လုပ်ငန်းအဖြင့် ပေါင်းစည်းရန် သို့မဟုတ် ဖွဲ့စည်းရန် ဖက်စပ်လုပ်ကိုင်ရန်၊ အခြားသူနှင့်၊ ကုမ္ပဏီ သို့မဟုတ် လုပ်ငန်း အတွက်အကျိုးတူပူးပေါင်းရန်၊ မြှင့်တင်ရန်၊ အထောက်ကူပေးရန်၊ တည်ထောင်ရန်၊ ပေါင်းစည်းရန်၊ ဖွဲ့စည်းရန်၊ ပူးပေါင်းပါဝင်ရန်၊ဖွဲ့စည်းရန်၊ စီမံခန့်ခွဲရန်၊ ကြီးကြပ်ကွပ်ကဲရန် နှင့်/သို့မဟုတ် အခြားအသင်းအဖွဲ့၊ ကုမ္ပဏီ၊ လုပ်ငန်းစု၊ ရန်ပုံငွေ၊ ယုံကြည်မှု၊ စီးပွားရေးလုပ်ငန်း သို့မဟုတ် အဖွဲ့အစည်းကို ထိန်းချုပ်ရန်။

၃(၁၅) ကုမ္ပဏီ သို့မဟုတ် လုပ်ငန်း သို့မဟုတ်၊ မည်သည့်လူပုဂ္ဂိုလ်ကမဆို လိုအပ်သော ထောက်ပံ့ပစ္စည်း နှင့် မည်သည့်ဝန်ဆောင်မှုများကိုမဆို ထောက်ပံ့ရန် သို့မဟုတ် ရယူပေးရန် နှင့် ကိုယ်စားလှယ်လုပ်ငန်း၊ ကော်ပိုရေးရှင်းရုံးများနှင့်၊ စီးပွားရေးလုပ်ငန်းများထံဝန်ဆောင်မှုများကို မည်သည့်ပုဂ္ဂိုလ်၊လုပ်ငန်း သို့မဟုတ် ကုမ္ပဏီထံသို့မဆို ထောက်ပံ့ပေးရန်။

၃(၁၆) ကုမ္ပဏီ၏လုပ်ငန်း သို့မဟုတ် လုပ်ဆောင်ချက်တစ်စုံတရာကို ဆောင်ရွက်ခြင်းမှ ရပ်တန့်ရန် ဖျက်သိမ်းရန်နှင့် မည်သည့်မှတ်ပုံတင်ခြင်းကိုမဆို ပယ်ဖျက်ရန်နှင့် ကုမ္ပဏီအားဖျက်သိမ်းခြင်းကို ရအောင်ဆောင်ရွက်ပေးရန်နှင့် တာဝန်ယူမှု၊ ပိုင်ဆိုင်မှုနှင့် ကုမ္ပဏီ၏အခြေပစ္စည်းများဆိုင်ရာ ၎င်း၏ ကြွေးရှင်များ သို့မဟုတ် အဖွဲ့ဝင်များ သို့မဟုတ် တစိတ်တဒေသကို ဝေငှပေးရန် သို့သော် အခြေနေအရ ဥပဒေအရ တောင်းဆိုလာမှုကြောင့် ခွင့်ပြုချက်မပါပဲရှိခဲ့လျှင် ရင်းနှီးမတည်ငွေအား နှုတ်ယူခြင်းဆိုင်ရာ ဝေငှခြင်းအား မပြုလုပ်ရ။

၃(၁၇) အထက်ဖော်ပြပါ ကိစ္စများနှင့်အကြောင်းအရာများအား ကုမ္ပဏီ၏ကိုယ်စား သို့မဟုတ် သည့်မည်သည့်ကိစ္စ၊ အကြောင်းအရာအတွက်မဆို ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်သူ သို့မဟုတ် မည်သည့်ဒေသတွင်မဆို အမျိုးမျိုးသောအကျိုးစီးပွားအတွက် ကိုယ်စားလှယ်များ၊ ကျွမ်းကျင်သူများနှင့် ကိုယ်စားလှယ်များအား ခန့်အပ်ရန်။

၃ (၁၈) အထက်တွင်ဖော်ပြပါ ကိစ္စများသို့မဟုတ် အကြောင်းအရာများအား မည်သည့်အရပ်ဒေသတွင်မဆို အုပ်ချုပ်သူ၊ ကိုယ်စားလှယ်၊ ကန်ထရိုက်တာ၊ ဘဏ္ဍာထိန်းအဖြစ်နှင့်ဆောင်ရွက်ပေးရန် သို့မဟုတ် တစ်နည်းအားဖြင့် ဘဏ္ဍာထိန်းများ၊ ကိုယ်စားလှယ်များအားဖြင့်၊ သို့မဟုတ် တစ်ယောက်တည်းဖြင့်သော်လည်းကောင်း သို့မဟုတ် တခြားသူများနှင့် ပေါင်း၍သော်လည်းကောင်း၊ ယေဘုယျအားဖြင့် ထိုသို့သော ကာလများနှင့် လုပ်ဆောင်ချက်များနှင့်အဖိုးစားနားများနှင့် အာမခံချက် (အကယ်၍ရှိခဲ့လျှင်) ကုမ္ပဏီမှသင့်သည်ဟုထင်သည့်အတိုင်း အာမခံစာချုပ်များ ထုတ်ပေးခြင်းအပါအဝင် သို့မဟုတ် ကုမ္ပဏီမှရယူပိုင်ဆိုင်ထားသော ပစ္စည်းအတွက် ပေးချေမှု သို့မဟုတ် တစိတ်တဒေသ ပေးချေမှု သို့မဟုတ် ကုမ္ပဏီသို့ထောက်ပံ့သောဝန်ဆောင်မှု သို့မဟုတ် မည်သည့်တာဝန်ဝတ္တရားအတွက်အာမခံ သို့မဟုတ် ပမာဏ (၄င်းအာမခံသည် သတ်မှတ်ထားသော ပမာဏထက်လျော့နည်းခဲ့လျှင်တောင်မှ) သို့မဟုတ် အခြားရည်ရွယ်ချက်များ အားလုံးကိုဆောင်ရွက်ရန်။

၃ (၁၉) အထက်ဖော်ပြပါကုမ္ပဏီ၏ရည်ရွယ်ချက်များ သို့မဟုတ် ယင်းတို့အထဲမှ ရည်ရွယ်ချက် တစ်ခုခုအတွက် လိုအပ်သော လုပ်ငန်းဆောင်တာများအားလုံးကို ဆောင်ရွက်ရန်၊ ဆက်စပ်၍ အထောက်ကူဖြစ်စေသော လုပ်ဆောင်ချက်ကိုဆောင်ရွက်ရန်၊ မြှင့်တင်ဆောင်ရွက်ရန်တို့အတွက် ကော်ပိုရိတ်အကျိုးစီးပွားနှင့် သက်ဆိုင်ခြင်းမရှိဘဲ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် အာဏာသက်ရောက်သော တည်ဆဲဥပဒေအရ ခွင့်ပြုထားသော အခွင့်အာဏာများအားလုံးရရှိနိုင်ရန်။

အပိုဒ်အသီးသီးတွင် ဖော်ပြထားသော ရည်ရွယ်ချက်တိုင်းအတွက်၊ ယင်းအပိုဒ်တွင်အခြားနည်း ဖော်ပြထားသည်မှအပ၊ ရည်ရွယ်ချက်တိုင်းသည် အဓိကရည်ရွယ်ချက်များနှင့် သီးခြားလွတ်လပ်သော ရည်ရွယ်ချက်ဖြစ်ရမည်ဖြစ်ပြီး အခြားအပိုဒ်ပါ ဝေါဟာရသတ်မှတ်ချက်များ သို့မဟုတ် ကုမ္ပဏီအမည်တို့ဖြင့် မည်သည့်နည်းနှင့်မျှ ကန့်သတ်ထားခြင်းမရှိစေရ သို့မဟုတ် ရည်ညွှန်းကန့်သတ်ထားခြင်းမရှိစေရ။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့်ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန်သဘောတူကြပါသည်။

| စဉ် | ပေးသွင်းသူများ၏အမည်၊ လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာများ ဦးရေ | လက်မှတ်များ |
|---|---|---|---|---|
| ၁။ | **InfraCo Myanmar Aqua Feed Pte. Ltd.**<br><br>10 Collyer Quay, #10-01 Ocean Financial Centre, Singapore 043915<br><br>Represented by:<br>Yanis Michel Boudjouher | Incorporated in Singapore under No. 201631938M on 22 November 2016<br><br>French Passport No. 13FV28506 | 80 ordinary shares of US$1,000 each | |
| ၂။ | **Siam Jupiter Center Company Limited**<br><br>No. 1 Shwe Yin Aye Kyaung Street, Livestock Zone, Hlaing Tharyar Township, Yangon, Myanmar<br><br>Represented by:<br>U Zaw Zaw Win | Incorporated in Myanmar under No. 4215/2016-2017 (YGN) on 14 December 2016<br><br>ID No.: 13/ThaPaNa (Naing) 008818 | 20 ordinary shares of US$1,000 each | |

၃၁ ရက်နေ့ မတ်လ ၂၀၁၇ ခုနှစ်တွင် လက်မှတ်ရေးထိုးသည်။

အထက်တွင် ဖော်ပြသော ပုဂ္ဂိုလ်များသည် ကျွန်ုပ်ရှေ့မှောက်တွင် လက်မှတ်ရေးထိုးခြင်းဖြစ်ကြောင်း အတည်ပြုပါသည်။

ဒေါ်သင်းယုရွှေ LL.B.,D.B.L
ဘာရားလွှတ်တော်ရှေ့နေ (၁၁၃၃၆/၂၀၁၆)
အမှတ်(၁၀/၁၂)၊ပထမထပ်(အေ-၅)
၁၅-လမ်း၊ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။
09 73168003, 09-773168003

ရက်စွဲ။ ၃၁ ရက်နေ့၊ မတ်လ၊ ၂၀၁၇

# အင်န်ဖရာကိုမြန်မာ အေကွာရ်ဖိဒ် ကုမ္ပဏီလီမိတက် (“ကုမ္ပဏီ”)
## အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော
## အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

## ၏

# သင်းဖွဲ့စည်းမျဉ်းများ

သင်းဖွဲ့စည်းမျဉ်းများ၏မာတိကာ

၁၃။ ဒါရိုက်တာများမှ တာဝန်ခွဲဝေချမှတ်ပေးနိုင်ခြင်း
၁၄။ ကော်မတီဝင်များ

ဒါရိုက်တာများမှ ဆုံးဖြတ်ချက်ချမှတ်ခြင်း
၁၅။ ဒါရိုက်တာများမှ စုပေါင်း၍ ဆုံးဖြတ်ချက်များချရန်
၁၆။ စာဖြင့်ရေးသားရမည့် ဆုံးဖြတ်ချက်များ
၁၇။ ဘုတ်အဖွဲ့ အစည်းအဝေးခေါ်ခြင်း
၁၈။ ဘုတ်အဖွဲ့အစည်းအဝေးများတွင်ပါဝင်ခြင်း
၁၉။ ဘုတ်အဖွဲ့အစည်းအဝေးများ ထမြောက်ရန် အနည်းဆုံးလူဦးရေ
၂၀။ ဘုတ်အဖွဲ့အစည်းအဝေးများတွင် သဘာပတိအဖြစ်ဆောင်ရွက်ခြင်း
၂၁။ ဆုံးဖြတ်မဲ
၂၂။ အကျိုးစီးပွားပဋိပက္ခ
၂၃။ သိမ်းထားရမည့် ဆုံးဖြတ်ချက်မှတ်တမ်းများ
၂၄။ နောက်ထပ်စည်းမျဉ်းများ ချမှတ်နိုင်သော ဒါရိုက်တာများ၏ ကိုယ်ပိုင်ဆုံးဖြတ်ချက်

## အပိုင်း ၃
## အစုရှယ်ယာများနှင့် အစုရှယ်ယာ ဝေမျှခြင်းများ

အစုရှယ်ယာများ

၂၅။ အစုရှယ်ယာများ ထုတ်ဝေခြင်း
၂၆။ အစုရှယ်ယာများ တောင်းခေါ်ခြင်း
၂၇။ အစုရှယ်ယာများကိုသိမ်းယူခြင်း
၂၈။ အမျိုးမျိုးသော ရှယ်ယာများထုတ်ဝေခွင့်အာဏာများ
၂၉။ သီးသန့်အကျိုးစီးပွားအတွက် ကုမ္ပဏီတွင်တာဝန်မရှိခြင်း
၃၀။ အစုရှယ်ယာ လက်မှတ်များ
၃၁။ အစုရှယ်ယာ လက်မှတ်များ အစားထိုးခြင်း
၃၂။ အစုရှယ်ယာ လွှဲပြောင်းခြင်းများ
၃၃။ အစုရှယ်ယာများကိုလွှဲပြောင်းဆက်ခံခြင်း
၃၄။ လွှဲပြောင်းခံရသူများ၏ ကျင့်သုံးရန်အခွင့်အရေးများ
၃၅။ ကြိုတင်အကြောင်းကြားစာများဖြင့်သက်ဆိုင်မှုရှိသောလွှဲပြောင်းဆက်ခံသူများ

အမြတ်ဝေစုများနှင့်အခြားသော ပေးဝေခြင်းများ

၃၆။ အမြတ်ဝေစုများ ကြေညာခြင်းဆိုင်ရာလုပ်ထုံး
၃၇။ အမြတ်ဝေစုများနှင့် အခြားသောပေးဝေခြင်းများဆိုင်ရာပေးချေမှု
၃၈။ အခြားသောပေးဝေခြင်းများအပေါ် အတိုးငွေမရှိခြင်း
၃၉။ တောင်းခံခြင်းမရှိသည့်ပေးဝေခြင်းများ
၄၀။ ငွေသားဖြင့်မဟုတ်သောပေးဝေခြင်းများ
၄၁။ ပေးဝေခြင်းများကိုစွန့်လွှတ်ခြင်း

# အပိုင်း ၁
## နိဒါန်းနှင့် အဓိပ္ပာယ်ရှင်းလင်းချက်

၁။ **နိဒါန်း**

၁(၁) ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က'ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ (၂)တွင်ဖော်ပြပါရှိသည့် မလိုက်နာမနေရစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

၁(၂) ဥပဒေအရအခြားနည်းခွင့်ပြုထားသည်မှလွဲ၍ ကုမ္ပဏီသည် အစုရှယ်ယာများဖြင့်ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သော ကုမ္ပဏီဖြစ်ပါသည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

၂။ **အဓိပ္ပာယ်ဖွင့်ဆိုချက်များ**

အခြေနေတစ်ခုခုကြောင့်အခြားနည်းလိုအပ်သည်မှလွဲ၍

၂(၁) ဤသင်းဖွဲ့စည်းမျဉ်းများနှင့် သင်းဖွဲ့မှတ်တမ်းတွင်ပါရှိသည့် အောက်ပါစကားရပ်များသည် ဖော်ပြပါအတိုင်း အဓိပ္ပာယ်သက်ရောက်စေရမည် –

**"သင်းဖွဲ့စည်းမျဉ်းများ"** ဆိုသည်မှာ အခါအားလျော်စွာ ပြင်ဆင်၊ အစားထိုး နှင့်/သို့မဟုတ် ပြုပြင်ပြောင်းလဲနိုင်သည့် ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းများကိုဆိုလိုသည်။

**"ဒေဝါလီခံရခြင်း"** တွင် မည်သည့်စီရင်ပိုင်ခွင့်ဒေသတွင်မဆို ၎င်းဒေဝါလီခံရခြင်းနှင့် တူညီသော အကျိုးသက်ရောက်မှုရှိသည့် တစ်ဦးခြင်းဆိုင်ရာ လူမွဲခံခြင်းအတွက် တရားစွဲခြင်းများပါဝင်သည်။

**"ဘုတ်အဖွဲ့"** ဆိုသည်မှာ ဒါရိုက်တာများအဖွဲ့ကို ဆိုလိုသည်။

**"သဘာပတိ"** ဆိုသည်မှာ အပိုဒ်၂၀ တွင် အဓိပ္ပာယ်ဖွင့်ဆိုထားပါသည်၊

**"အစည်းဝေးသဘာပတိ"** ဆိုသည်မှာအပိုဒ် ၄၇ တွင် အဓိပ္ပာယ်ဖွင့်ဆိုထားပါသည်၊

**"ကုမ္ပဏီများအက်ဥပဒေ"** ဆိုသည်မှာ ထပ်မံပြဋ္ဌာန်းချက်တစ်ရပ်နှင့် ၎င်းအပေါ် ဥပဒေဖြည့်စွက်ရေးဆွဲ ခြင်းတို့ပါဝင်သော မြန်မာ ကုမ္ပဏီများ အက်ဥပဒေ ၁၉၁၄ ကိုဆိုလိုသည်၊

**"ဒါရိုက်တာ"** ဆိုသည်မှာ ကုမ္ပဏီ၏ဒါရိုက်တာကိုဆိုလိုပြီး၊ မည်သို့အမည်နာမရှိသည်ဖြစ်စေ ဒါရိုက်တာ၏အရာကို ရယူထားသူပါဝင်သည်။

**"ပေးဝေခြင်းကိုလက်ခံသူ"** သည်သင်းဖွဲ့စည်းမျဉ်းများ ၃၇ (၂) တွင် အဓိပ္ပာယ်ဖွင့်ဆိုထားပါသည်၊

**"စာရွက်စာတမ်း"**တွင် အခြားသီးခြားသတ်မှတ်ထားသည်မှလွဲ၍ ပေးပို့ခဲ့သော မည်သည့်စာရွက်စာတမ်း သို့မဟုတ် အီလက်ထရောနစ်ပုံစံဖြင့် ပေးပို့သောအရာများ ပါဝင်သည်။

**"အီလက်ထရောနစ်ပုံစံ"**ဆိုသည်မှာ အောက်ပါနည်းလမ်းတို့ဖြင့် ပေးပို့သောစာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်တို့ကို ဆိုလိုသည် –

(က) အီလက်ထရောနစ်အားဖြင့် (ဥပမာ– အီးမေးလ် သို့မဟုတ် ဖက်စ်အားဖြင့်) သို့မဟုတ်
(ခ) အီလက်ထရောနစ်ပုံစံဖြင့်ပေးပို့သော အခြားနည်းစနစ်တစ်ခုခုအားဖြင့် (ဥပမာ – ကွန်ပျူတာသုံးဓာတ်ပြား (disk) ဖြင့် စာတိုက်မှပေးပို့ခြင်း) နှင့်

အလားသဏ္ဍာန်တူအဓိပ္ပါယ်ရှိသည့် အီလက်ထရောနစ် မိတ္တူကိုရည်ညွှန်းသည်။

**"အီလက်ထရောနစ်နည်းလမ်းများ"** ဆိုသည်မှာ စာရွက်စာတမ်းတစ်ခု သို့မဟုတ် အချက်အလက် တစ်ခုကို ဆိုလိုသည်။ ၎င်းတွင်–

(က) အီလက်ထရောနစ်နည်းလမ်းအားဖြင့် ကနဦး လက်ခံရရှိသော (၎င်းစကားရပ်တွင် ဒီဂျစ်တယ် နည်းအားဖြင့် ချုံ့ခြင်း လည်းပါဝင်သည်) သို့မဟုတ် အချက်အလက် သိမ်းဆည်းထားခြင်း နှင့်

(ခ) ဝါယာကြိုးမှတစ်ဆင့် ရေဒီယိုမှတစ်ဆင့် အလင်းစနစ်အားဖြင့် သို့မဟုတ် အခြားလျှပ်စစ်သံလိုက် နည်းအားဖြင့် ပေးပို့လက်ခံခြင်း နည်းလမ်းများနှင့်

အလားသဏ္ဍာန်တူအဓိပ္ပါယ်ရှိသည့် "အီလက်ထရောနစ်နည်းလမ်းများ"ကိုရည်ညွှန်းသည်။

**"သာမန်မဟုတ်သောဆုံးဖြတ်ချက်"** ဆိုသည်မှာ ၇၅% ထက်မနည်းသော ကုမ္ပဏီအဖွဲ့ဝင်များ (သို့မဟုတ် အဖွဲ့ဝင်များ၏အတန်းအစားတစ်ခု) မှ ကုမ္ပဏီ၏အစည်းအဝေးတွင် ၎င်းတို့၏ ရည်ရွယ်ချက်အရ သာမန်မဟုတ်သောဆုံးဖြတ်ချက်အဖြစ် အတည်ပြု သတ်မှတ်သော ဆုံးဖြတ်ချက်ကို ဆိုလိုသည်။

ရှယ်ယာများနှင့်ဆက်စပ်၍ "အပြည့်အဝပေးသွင်းခြင်း"ဆိုသည်မှာ ကုမ္ပဏီထံသို့ ပေးဆောင်ရမည့် သတ်မှတ်တန်ဖိုးရင်းနှင့် ပရီမီယံကြေးများကိုဆိုလိုသည်။

**"သင်းလုံးကျွတ်အစည်းအဝေး"**ဆိုသည်မှာ ကုမ္ပဏီအဖွဲ့ဝင်များ၏ အစည်းအဝေးကိုဆိုလိုသည် ၎င်းတွင် သာမန်ထက်မဟုတ်သော သင်းလုံးကျွတ်အစည်းအဝေးများနှင့် နှစ်စဉ်ကျင်းပသော သင်းလုံးကျွတ်အစည်းအဝေးတို့ ပါဝင်သည်။

**"စာရွက်မိတ္တူ"** ဆိုသည်မှာ စာရွက်ပေါ်တွင် ကူးယူထားသော သို့မဟုတ် ဖတ်ကြည့်နိုင်သော အလားတူပုံစံတစ်ခုခုတွင် ဖော်ပြထားသောစာရွက်စာတမ်းတစ်ခု သို့မဟုတ် သတင်းအချက်အလက်ကို ဆိုလိုသည်။

**"ရှယ်ယာရှင်"** ဆိုသည်မှာအစုရှယ်ယာများကို ပိုင်ဆိုင်သူအဖြစ် အဖွဲ့ဝင်မှတ်တမ်းတွင် အမည်စာရင်းသွင်းထားသောပုဂ္ဂိုလ်ကို ဆိုလိုသည်။

**"ဦးပိုင် ကုမ္ပဏီ"** ဆိုသည်မှာ ကုမ္ပဏီအက်ဥပဒေတွင် အဓိပ္ပာယ်ဖွင့်ဆိုထားသည့်အတိုင်း ဖြစ်သည်။

**"စာချုပ်စာတမ်း"** ဆိုသည်မှာ စာရွက်မိတ္တူပုံစံဖြင့်ရှိနေသော စာရွက်စာတမ်းကိုဆိုလိုသည်။

**"အဖွဲ့ဝင်"** ဆိုသည်မှာ အစုရှယ်ယာပိုင်ဆိုင်သော ပုဂ္ဂိုလ်ကိုဆိုလိုပြီး အလားသဏ္ဍာန်တူ အဓိပ္ပာယ်ရှိသော "အစုရှယ်ယာရှင်" ကိုဆိုလိုသည်။

**"သင်းဖွဲ့မှတ်တမ်း"** ဆိုသည်မှာ အခါအားလျော်စွာ အာဏာသက်ရောက်မှုရှိသော ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းကို ဆိုလိုသည်။

**"သာမန် ဆုံးဖြတ်ချက်"** ဆိုသည်မှာ ကုမ္ပဏီ၏ သင်းလုံးကျွတ်အစည်းအဝေးတွင် သာမန်အဖွဲ့ဝင် အများစု (>၅၀%) (သို့မဟုတ် အဖွဲ့ဝင်အတန်းအစားတစ်ခု) ၏ ဆုံးဖြတ်ချက်ကို ဆိုလိုသည်။

**"ပေးဆောင်ပြီး"** ဆိုသည်မှာ ပေးဆောင်ပြီးခြင်း သို့မဟုတ် ပေးဆောင်ပြီးဖြစ်သည်ဟုမှတ်ယူခြင်းကိုဆိုလိုသည်။

**"ဘုတ်အဖွဲ့အစည်းအဝေးတွင်ပါဝင်ခြင်း"** ဆိုသည်မှာ အပိုဒ်၁၈(၁)တွင် အဓိပ္ပာယ်ဖွင့်ဆိုထားသည့်အတိုင်း ဖြစ်သည်။

**"တဦးတယောက်သောသူ"** ဟုဆိုရာတွင် သာမန်လူပုဂ္ဂိုလ်များ၊ ကော်ပိုရေးရှင်းများ၊ ပေးရန်တာဝန်ကန့်သတ်ထားသော ကုမ္ပဏီများ၊ လုပ်ငန်းစုများ (trusts)၊ ဖက်စပ်လုပ်ငန်းများ၊ အသင်းအဖွဲ့များ၊ ကုမ္ပဏီများ၊ အစုစပ်လုပ်ငန်းများ၊ အစိုးရများ သို့မဟုတ် အေဂျင်စီများ သို့မဟုတ် နိုင်ငံရေး သို့မဟုတ် စီးပွားရေး လုပ်ငန်းအဖွဲ့များလည်းပါဝင်သည်။

**"ကိုယ်စားလှယ် နို့တစ်စာ"** ဆိုသည်မှာ အပိုဒ်၅၂(၁) တွင်အဓိပ္ပာယ်ဖွင့်ဆိုထားသည့်အတိုင်း ဖြစ်သည်။

**"ရှယ်ယာ"** ဆိုသည်မှာ ကုမ္ပဏီ၏ အစုရှယ်ယာများကိုဆိုလိုသည်။

**"အထူးဆုံးဖြတ်ချက်"** ဆိုသည်မှာ အထွေထွေအစည်းအဝေးတွင် ကုမ္ပဏီမှထုတ်ဝေထားသော အစုရှယ်ယာများ၏ ၇၅% ထက်မနည်းသော အများစုကိုကိုယ်စားပြုသော အဖွဲ့ဝင်များမှချမှတ်သော ဆုံးဖြတ်ချက်များကို ဆိုလိုသည်။
အဆိုပါ အစည်းအဝေးဆုံးဖြတ်ချက်ကို ၂၁ရက်ထက် မလျော့နည်းစေဘဲ (သို့မဟုတ် အခြားအဖွဲ့ဝင်များ၏ သဘောတူချက်အတိုင်း အဆိုပါရက်ထက်လျော့နည်းသောကာလ) အတွင်း အထူးအစည်းအဝေးမှ ချမှတ်ထားသော ရည်ရွယ်ချက်အတိုင်း ရေးသားအကြောင်းကြားရမည်။

**"လက်အောက်ခံကုမ္ပဏီ"** ဆိုသည်မှာ ကုမ္ပဏီများအက်ဥပဒေတွင် "လက်အောက်ခံကုမ္ပဏီ"အဖြစ် အဓိပ္ပာယ်ဖွင့်ဆိုထားသည့်အတိုင်း ဖြစ်သည်။

**"လွှဲပြောင်းရယူသူ"** ဆိုသည်မှာ ဥပဒေအရအခြားဆောင်ရွက်ချက်များ သို့မဟုတ် ရှယ်ယာရှင်ဒေဝါလီခံခြင်း သို့မဟုတ် သေဆုံးသွားခြင်း အကြောင်းကြောင်းကြောင့် အစုရှယ်ယာအပေါ် အကျိုးခံစားခွင့်ရှိသောသူကို ဆိုလိုသည်။

**"ရေးသားခြင်း"** ဆိုသည်မှာ အီလက်ထရောနစ်ပုံစံ သို့မဟုတ် အခြားနည်းအားဖြင့် စာလုံးများ သို့မဟုတ် အခြားအချက်အလက်များကို နည်းလမ်းတစ်ခုခု သို့မဟုတ် နည်းလမ်းများပေါင်းစပ်ကာ မြင်သာအောင်ဖော်ပြခြင်းကို ဆိုလိုသည်။

၂(၂) ဤအပိုဒ်တွင် ပါဝင်သော စကားလုံးများနှင့် စကားရပ်များသည် အပိုဒ်၂(၁)တွင် အဓိပ္ပာယ်ဖွင့်ဆိုထားသည်မှလွဲ၍ ဤအသင်းဖွဲ့စည်းမျဉ်းသည် ကုမ္ပဏီ၏တရားဝင်စည်းမျဉ်း ဖြစ်လာသောအချိန်တွင် အာဏာသက်ရောက်သော ကုမ္ပဏီအက်ဥပဒေပါ အဓိပ္ပာယ်ဖွင့်ဆိုချက်အတိုင်း ဖြစ်သည်။

၂(၃) ကေဝုစ် အဓိပ္ပာယ်ရှိသည့် စကားရပ်သည် ဗဟုဝုစ် အဓိပ္ပာယ်ရှိသည့် စကားရပ်နှင့်လည်း အပြန်အလှန် သက်ဆိုင်သည်။ ယောကျ်ားကို ရည်ညွှန်းသော စကားရပ်သည် မိန်းမနှင့်လည်း အပြန်အလှန်သက်ဆိုင်သည်။

၂(၄) အသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတွင် အနက်အဓိပ္ပာယ်ကောက်ရာတွင် အဆင်ပြေစေရန် ခေါင်းစဉ်များကို ထည့်သွင်းပေးထားသည်။

၂(၅) အီလက်ထရောနစ်နည်း အားဖြင့် သို့မဟုတ် အခြားနည်းအားဖြင့် ပို့ရန်လိုအပ်သည့် စာရွက်စာတမ်း သို့မဟုတ် အချက်အလက်များကိုပေးပို့ရာတွင် ၄င်းပေးပို့သူ သို့မဟုတ် ပေးသွင်းသူသည် လက်ခံသူအတွက် အဆင်ပြေအောင်ထည့်သွင်းစဉ်းစားရမည် –

(က) ဖတ်၍ရနိုင်စေရန်
(ခ) အဆိုပါ စာရွက်စာတမ်း၏ မိတ္တူအဖြစ်ထိန်းသိမ်းနိုင်ရန် နှင့်

ဤအခန်း၏ ရည်ရွယ်ချက်အရ စာရွက်စာတမ်း သို့မဟုတ် အချက်အလက် ကို အောက်ပါအခြေအနေတွင် ဖတ်ရှုနိုင်သည်ဟု ဆိုနိုင်သည်–

(က) သာမန်မျက်စိဖြင့် ဖတ်၍ရနိုင်လျှင်
(ခ) ၄င်းတွင် ရုပ်ပုံများပါရှိလျှင် (ဥပမာ–ဓာတ်ပုံများ၊ ရုပ်ပုံများ၊ မြေပုံ၊ ရေးဆွဲထားသောပုံများ) သာမန်မျက်စိဖြင့် မြင်နိုင်လျှင်

ဤအခန်းပါ ပြဋ္ဌာန်းချက်များတွင် သုံးသောစကားလုံးများ "ပို့သည်" သို့မဟုတ် "ထောက်ပံ့" သို့မဟုတ် အခြားစကားလုံးများ (ယင်းတို့မှာ လက်ရောက်ပေးပို့သည်၊ စီစဉ်ပေးသည်၊ ထုတ်လုပ်သည် သို့မဟုတ် အကြောင်းကြားခြင်းနှင့် ပတ်သတ်၍ "ပေးသည်") အစရှိသော စကားလုံးများသည် စာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်များပေးပို့ခြင်း သို့မဟုတ် ပေးသွင်းခြင်းကို ရည်ညွှန်းသည်။

## အပိုင်း ၂
## ဒါရိုက်တာများ
### ဒါရိုက်တာများ ခန့်အပ်ခြင်း

### ၃။ ဒါရိုက်တာများ၏ အရေအတွက်

သာမန်ဆုံးဖြတ်ချက်ဖြင့် အခြားနည်းဆုံးဖြတ်ချက်မှလွဲ၍၊ ကုမ္ပဏီများအက်ဥပဒေတွင် အခြားနည်းခွင့်ပြုထားခြင်းမရှိလျှင် ဒါရိုက်တာများ၏အရေအတွက်သည် ၄ဦးထက်မနည်း၊၇ဦးထက် မများစေရ။

### ၄။ပထမ ဒါရိုက်တာများ

ကုမ္ပဏီ၏ပထမ ဒါရိုက်တာများမှာ –

(၁) Benny Lee Hock Kooi, Malaysian Passport No.: A26508517;
(၂) Henry Cleeve Cox, Australian Passport No. E4119572;
(၃) Yanis Michel Boudjouher, French Passport No.13FV28506;
(၄) U Zaw Zaw Win, CSC No.: 13/ThaPaNa (Naing) 008818.

### ၅။ ဒါရိုက်တာများခန့်အပ်ခြင်းဆိုင်ရာနည်းလမ်းများ

ဒါရိုက်တာအဖြစ် တာဝန်ထမ်းဆောင်လိုသောသူနှင့် ယင်းသို့တာဝန်ထမ်းဆောင်ရန် ဥပဒေမှခွင့်ပြုထားသောမည်သူကိုမဆို ဒါရိုက်တာအဖြစ် ခန့်အပ်နိုင်သည်။

### ၆။ ဒါရိုက်တာများခန့်အပ်ခြင်းမှရပ်စဲခြင်း

ပုဂ္ဂိုလ်တစ်စုံတစ်ဦးသည် ဒါရိုက်တာအဖြစ်မှ အောက်ပါအခြေအနေများတွင်ချက်ချင်းရပ်နားရမည် –

(က) အဖွဲ့ဝင်များမှ ဒါရိုက်တာအား ရုံးမှထုတ်ပယ်ရန် သာမန်ဆုံးဖြတ်ချက်ဖြင့် ဆုံးဖြတ်လျှင်

(ခ) ထိုပုဂ္ဂိုလ်သည်ဒါရိုက်တာဖြစ်ရန် ဥပဒေမှတားမြစ်ထားခြင်းသို့မဟုတ် ကုမ္ပဏီများအက်ဥပဒေအရ ဒါရိုက်တာအဖြစ်မှရပ်စဲခဲ့လျှင်။

(ဂ) ထိုပုဂ္ဂိုလ်အပေါ် ဒေဝါလီခံရန်အမိန့်ချမှတ်ခံရလျှင်၊

(ဃ) ၄င်းပုဂ္ဂိုလ်၏ အကြွေးကျေစေရန်အလို့ငှာ အကြွေးရှင်များမှနေ၍ ၄င်းအမည်အောက်တွင် တောင်းခံစာရေးသားပေးပို့ခြင်းခံရသောသူဖြစ်လျှင်၊

(င) ထိုပုဂ္ဂိုလ်အား ကုသပေးသည့် အသိမှတ်ပြုဆေးဆရာဝန်မှ ထိုပုဂ္ဂိုလ်သည် ရုပ်ပိုင်းဆိုင်ရာနှင့် စိတ်ပိုင်းဆိုင်ရာတွင် ဒါရိုက်တာရာထူးထမ်းဆောင်ရန် မဖြစ်နိုင်တော့ကြောင်း အသက်ရှင်ရန် သုံးလနှင့် အထက်သာ ကျန်ရစ်တော့ကြောင်း လက်ရေးစာဖြင့် ကုမ္ပဏီအား အကြောင်းကြားလာလျှင်၊

(စ) ကုမ္ပဏီသည် ဒါရိုက်တာထံမှနေ၍ အဆိုပါဒါရိုက်တာသည် ရုံးမှနုတ်ထွက်ကြောင်းနို့တစ်စာကို လက်ခံရရှိလျှင် ထိုနုတ်ထွက်ခြင်းသည် ၎င်း၏သက်တမ်းကာလများအရ အကျိုးသက်ရောက်မှုရှိသည်။

## ၇။ ဒါရိုက်တာများ၏ အလှည့်ကျစနစ်

ကုမ္ပဏီများအက်ဥပဒေအရ လိုအပ်သမျှကာလပတ်လုံး

၇(၁) ကုမ္ပဏီ၏ ပထမဆုံးအထွေထွေ နှစ်ပတ်လည်အစည်းအဝေးတွင် ဒါရိုက်တာအားလုံးသည် ရုံးမှအနားယူရမည်ဖြစ်၍ နောက်ဆက်တွဲပြုလုပ်သော ကုမ္ပဏီ၏ အထွေထွေ နှစ်ပတ်လည် အစည်းအဝေးတိုင်းတွင် ဒါရိုက်တာများ၏ သုံးပုံတစ်ပုံ သို့မဟုတ် အကယ်၍ သုံးဦး မဟုတ်လျှင် သို့မဟုတ် သုံးနှင့်စား၍ မပြတ်လျှင် အနီးစပ်ဆုံး သုံးပုံတစ်ပုံခန့်အရေအတွက်သည် ကုမ္ပဏီမှအနားယူရမည်။

၇(၂) နှစ်စဉ်အနားယူယူရမည့် ဒါရိုက်တာများကိစ္စနှင့်ပတ်သက်၍ ထိုရာထူးတွင် အကြာရှည်ဆုံးတည်ရှိနေသူ ဒါရိုက်တာများဖြစ်လာသူများ အနက်မှ မည်သူနုတ်ထွက်ပေးရမည် နည်းဟူသောကိစ္စပေါ်ပေါက်ခဲ့လျှင် (အချင်းချင်း သဘောတူညီချက်အရမှတစ်ပါး) မဲနှိုက်၍ ဆုံးဖြတ်ရမည်။

၇(၃) အနားယူထားသော ဒါရိုက်တာသည် ဒါရိုက်တာအဖြစ်ပြန်လည်အရွေးချယ်ခံပိုင်ခွင့်ရှိသည်။

၇(၄) အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ကုမ္ပဏီ၏နှစ်ပတ်လည် သင်းလုံးကျွတ်အစည်းအဝေးတွင် အနားယူသွားသော ဒါရိုက်တာ၏ လစ်လပ်သောနေရာတွင် ရွေးချယ်တင်မြှောက်ခံရသောသူအား အစားထိုးခန့်ထားရမည်။

၇(၅) အကယ်၍ရွေးချယ်တင်မြှောက်ခံရသော ဒါရိုက်တာများသည် တာဝန်ထမ်းဆောင်ရန် ပျက်ကွက်ခဲ့လျှင်၊ အစားထိုးတာဝန်ထမ်းဆောင်ခြင်းမရှိလျှင် အထွေထွေအစည်းဝေးမှ နောက်ထပ်ရက်သတ္တပတ်အတွင်း တူညီသောနေရာ၊ အချိန်၊ နေ့ရက်အထိ သင်းလုံးကျွတ်အစည်းအဝေးကို ရွှေ့ဆိုင်းထားနိုင်ပြီး ၎င်းရွှေ့ဆိုင်းထားသော သင်းလုံးကျွတ်အစည်းအဝေးအတွင်း ဒါရိုက်တာသည် တာဝန်ထမ်းဆောင်ခြင်း မရှိသေးလျှင် ရာထူးမှနုတ်ထွက်သော ဒါရိုက်တာနေရာတွင် ဆက်ခံတာဝန်ထမ်းဆောင်မည့်သူမရှိ၍ ရွှေ့ဆိုင်းထားသော သင်းလုံးကျွတ်အစည်းအဝေးတွင် ပြန်လည်ရွေးကောက်ရန် လိုအပ်သည်ဟူ၍မှတ်ယူရမည်။

## ၈။ ဒါရိုက်တာများ၏ အခကြေးငွေ

၈(၁) ဒါရိုက်တာများသည် ဒါရိုက်တာများမှ ဆုံးဖြတ်ထားသည့်အတိုင်း ကုမ္ပဏီအတွက် မည်သည့် လုပ်ငန်းဆောင်ရွက်ချက်ကိုမဆို လုပ်ဆောင်နိုင်သည်။

၈(၂) ဒါရိုက်တာများသည် အဖွဲ့ဝင်များမှ ဆုံးဖြတ်ထားသည့်အောက်ပါအခကြေးငွေအား ခံစားခွင့် ရှိသည် –

(က) ကုမ္ပဏီတွင် ဒါရိုက်တာများအဖြစ် သူတို့ ဆောင်ရွက်မှုများအတွက် နှင့်
(ခ) ကုမ္ပဏီတွင် သူတို့တာဝန်ယူထားသည့် အခြားသောဆောင်ရွက်မှုများအတွက်။

၈(၃) ဤသင်းဖွဲ့စည်းမျဉ်းများအရ ဒါရိုက်တာ၏ အခကြေးငွေသည် –

(က) ပုံစံအမျိုးမျိုးဖြင့် သော်လည်းကောင်း၊
(ခ) ဒါရိုက်တာ တစ်ဦး၏ ပင်စင်ကြေး၊ ထောက်ပံ့ကြေး သို့မဟုတ် ဆုကြေး၊ သို့မဟုတ် သေဆုံးခြင်း၊ မှုးနာခြင်း၊ မသန်မစွမ်းဖြစ်ခြင်းအတွက် အကျိုးခံစားခွင့်များနှင့် ပတ်သက်သည့် စီမံဆောင်ရွက်မှုများပါဝင်သည်။

၈(၄) ဒါရိုက်တာများမှ အခြားနည်းဆုံးဖြတ်သည်မှလွဲ၍ ဒါရိုက်တာများ၏ အခကြေးငွေသည် တစ်နေ့ထက်တစ်နေ့ တိုးလာပိုင်ခွင့်ရှိသည်။

၈(၅) အဖွဲ့ဝင်များမှ အခြားနည်းဆုံးဖြတ်သည်မှလွဲ၍ ဒါရိုက်တာများသည် ဒါရိုက်တာအဖြစ်သူတို့ရရှိသော အခကြေးငွေအတွက် သို့မဟုတ် အခြားဝန်ထမ်းများ သို့မဟုတ် ကုမ္ပဏီ၏ လက်အောက်ခံကုမ္ပဏီများ၏ ၏ဝန်ထမ်းများ သို့မဟုတ် ကုမ္ပဏီအကျိုးစီးပွားအလို့ငှာ ဖွဲ့စည်းထားသော အခြားအဖွဲ့အစည်းအတွက်မှု တာဝန်ခံရန်မလိုအပ်ပေ။

## ၉။ ဒါရိုက်တာများ၏ အသုံးစရိတ်များ

ကုမ္ပဏီသည် ဒါရိုက်တာများနှင့်သူတို့၏ အောက်ပါအစည်းအဝေးတို့တွင် တက်ရောက်ခြင်းအတွက် သုံးစွဲသည့် ထိုက်သင့်သော အသုံးစရိတ်များကို ပေးချေရမည် –

(က) ဒါရိုက်တာများ၏ ကော်မတီအစည်းအဝေး သို့မဟုတ် ဒါရိုက်တာများ၏ အစည်းအဝေးများအတွက်
(ခ) သင်းလုံးကျွတ်အစည်းအဝေးများ သို့မဟုတ်၊
(ဂ) ကုမ္ပဏီ၏ မတူညီသောရှယ်ယာအမျိုးအစားများ၏ ရှယ်ယာရှင်များ သို့မဟုတ် ငွေချေးလက်မှတ်များ သို့မဟုတ် ကုမ္ပဏီ၏ဝတ္တရားပျက်ကွက်ခြင်းတို့နှင့် ပတ်သက်ဆက်နွယ်သော သီးခြားအစည်းအဝေးများ။

### ဒါရိုက်တာများ၏ တာဝန်နှင့်ဝတ္တရားများ

## ၁၀။ ဒါရိုက်တာများ၏ အထွေထွေအခွင့်အာဏာ

ဤအပိုဒ်အရ ဒါရိုက်တာများသည် ကုမ္ပဏီ၏စီးပွားရေးနှင့် ကိစ္စအဝဝအတွက် စီမံခန့်ခွဲရန် တာဝန်ရှိသည်၊ ၎င်းရည်ရွယ်ချက်အတွက် သူတို့သည် ကုမ္ပဏီ၏ အခွင့်အာဏာများအားလုံးကို ကျင့်သုံးနိုင်သည်။

## ၁၁။ ဒါရိုက်တာအဖြစ်အရည်အချင်းပြည့်မီစေနိုင်သော အစုရှယ်ယာများ

ဒါရိုက်တာများသည် ဒါရိုက်တာအဖြစ်အရည်အခြင်းပြည့်မီစေနိုင်သော အစုရှယ်ယာများကို ပိုင်ဆိုင်ရန်မလိုအပ်ပေ။

## ၁၂။ အစုရှယ်ယာရှင်များ၏ သီးသန့်အာဏာ

၁၂(၁) အစုရှယ်ယာရှင်များသည် စာဖြင့်ရေးသားသဘောတူညီချက်ဖြင့် လည်းကောင်း သာမာန်ဆုံးဖြတ်ချက်အားဖြင့်လည်းကောင်း ဒါရိုက်တာများအား သတ်မှတ်ထားသော လုပ်ဆောင်ချက် တစ်ခုခုလုပ်ဆောင်ရန် သို့မဟုတ် လုပ်ဆောင်မှုဆိုင်းငံ့ရန် ညွှန်ကြားနိုင်သည်။

၁၂ (၂) ဒါရိုက်တာများမှ ယခင်ဆုံးဖြတ်ခဲ့ပြီးသော ဆုံးဖြတ်ချက်မထုတ်ပြန်မီတွင် သို့မဟုတ် သဘောတူညီချက်သည် ချုပ်ဆိုသောနေ့တွင် ထုတ်ပြန်ထားသော မည်သည့်ညွှန်ကြားချက်မဆို ပျက်ပြယ်ခြင်းမရှိပါ။

## ၁၃။ ဒါရိုက်တာများသည် တာဝန်ခွဲဝေချမှတ်ပေးနိုင်ခြင်း

၁၃ (၁) သင်းဖွဲ့စည်းမျဉ်းများနှင့် အစုရှယ်ယာရှင်များအကြား သဘောတူညီချက်ပါ ပြဋ္ဌာန်းချက်များအရ ဒါရိုက်တာများသည် ဤသင်းဖွဲ့စည်းမျဉ်းများအရ အောက်ပါပုဂ္ဂိုလ်တို့အား ၎င်းတို့၌အပ်နှင်း ထားသည့် အာဏာဖြင့် လိုအပ်သည်ထင်လျှင် တာဝန်ခွဲဝေချမှတ်နိုင်သည် –

(က) ထိုသို့သောပုဂ္ဂိုလ် (ကုမ္ပဏီ၏မန်နေးဂျင်းဒါရိုက်တာ အပါအဝင်၊ ၎င်းသည်ဒါရိုက်တာ ဖြစ်ရန်မလိုအပ်ပေ) သို့မဟုတ် ကော်မတီ
(ခ) ထိုသို့သောနည်းစနစ်ဖြင့် (ရှေ့နေ၏အခွင့်အာဏာအားဖြင့် အပါအဝင်)
(ဂ) ထိုသို့သောအတိုင်းအတာအထိ
(ဃ) ထိုကဲ့သို့သော အရာများ သို့မဟုတ် နယ်ပယ်များနှင့်စပ်လျဉ်း၍ သော်လည်းကောင်း
(င) ထိုသို့သောစည်းမျဉ်းစည်းကမ်းများအရ သော်လည်းကောင်း

၁၃ (၂) ဒါရိုက်တာများမှ ထိုသို့သောတာဝန်ခွဲဝေမှုကိုချမှတ်ပေးလျှင် ဒါရိုက်တာများ၏အာဏာဖြင့် တာဝန်ခွဲဝေခံရသော မည်သူ့ကိုမဆို နောက်ထပ်တာဝန်ခွဲဝေမှုအတွက် ခွင့်ပြုပေးရမည်။

၁၃ (၃) မည်သည့်တာဝန်ခွဲဝေမှုကိုမဆို ဒါရိုက်တာများမှ တစ်ခုလုံး သို့မဟုတ် တစိတ်တဒေသ၊ သို့မဟုတ် ၎င်း၏ကာလအပြောင်းအလဲများနှင့် အခြေနေများကို ပြန်လည်ရုပ်သိမ်းနိုင်သည်။

## ၁၄။ ကောင်မတီဝင်များ

၁၄ (၁) ဒါရိုက်တာများမှ အာဏာလွှဲခံရသည့် ကော်မတီဝင်များသည် ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်များကို ထိန်းချုပ်ပေးသည့် သင်းဖွဲ့စည်းမျဉ်းများ၏ ပြဋ္ဌာန်းချက်များများအပေါ်ဆက်စပ်အခြေခံသည့် လုပ်ထုံးများကို လိုက်နာရမည်။

၁၄ (၂) ကော်မတီဝင်များ အပြောင်းအလဲရှိပါက ဒါရိုက်တာများသည် သင်းဖွဲ့စည်းမျဉ်းများမှ ထွက်လာသည့် စည်းမျဉ်းများအပေါ် လွှမ်းမိုးမှုရှိနိုင်သည့် လုပ်ထုံးစည်းမျဉ်းများကို ချမှတ်နိုင်သည်။

# ဒါရိုက်တာများမှ ဆုံးဖြတ်ချက်ချမှတ်ခြင်း

## ၁၅။ ဒါရိုက်တာများမှ ဆုံးဖြတ်ချက်များ စုပေါင်းချမှတ်ရန်

ဒါရိုက်တာများမှ ဆုံးဖြတ်ချက်ချမှတ်ခြင်းဆိုင်ရာ အထွေထွေစည်းမျဉ်းတွင် ဒါရိုက်တာများမှချမှတ်သည့် ဆုံးဖြတ်ချက်တိုင်းသည် အစည်းအဝေး၌အများ၏ဆုံးဖြတ်ချက်အရ သို့မဟုတ် အပိုဒ်၁၆အရ ချမှတ်ထားသော ဆုံးဖြတ်ချက်အတိုင်းဖြစ်ရမည်။

## ၁၆။ စာဖြင့်ရေးသားဆုံးဖြတ်ချက်များ

၁၆ (၁) ဤအပိုဒ်အရ အရည်ချင်းပြည့်မီသော ဒါရိုက်တာအများစုမှ ကိစ္စတစ်ခုအပေါ် လက်တွေ့ကျသော အမြင်မျှဝေခြင်းဖြင့် ဒါရိုက်တာများမှချမှတ်သော ဆုံးဖြတ်ချက်အရ။

၁၆ (၂) အဆိုပါဆုံးဖြတ်ချက်ကို စာဖြင့်ရေးသားထား၍၊ အရည်ချင်းပြည့်မီသော ဒါရိုက်တာမှအသီးသီးမှ လက်မှတ်ရေးထိုးမိတ္တူတွင် သို့မဟုတ် ဒါရိုက်တာအသီးသီးမှ စာဖြင့်ရေးသားထားသော စာချုပ်ဖြင့် အခြားနည်းဖြင့် စာရွက်တရွက် သို့မဟုတ် စာရွက်အမြောက်အမြားဖြင့်ပြင်ဆင်၍ သို့မဟုတ် အဆိုပါရည်ရွယ်ချက်အလို့ငှာ ဖြစ်နိုင်ရမည်။

၁၆ (၃) ဤအပိုဒ်အရ ရည်ညွှန်းသော အရည်ချင်းပြည့်မီသော ဒါရိုက်တာများသည် ဘုတ်အစည်းအဝေးတွင်အစည်းအဝေးဆုံးဖြတ်ချက်အဖြစ် တင်သွင်းပြီးသော အကြောင်းအရာအပေါ် မဲပေးပိုင်ခွင့်ရှိသော ဒါရိုက်တာများကို ရည်ညွှန်းသည်။

၁၆ (၄) ထိုအစည်းအဝေး၌ သင့်လျော်သည့် ဒါရိုက်တာများမှ အစည်းအဝေးဖြစ်မြောက်ရေးအတွက် လိုအပ်သော အနည်းဆုံးလူဦးရေမဖွဲ့ခဲ့လျှင် ဤအပိုဒ်အရ ဆုံးဖြတ်ချက်ချမှတ်မည်မဟုတ်ပါ။

## ၁၇။ ဘုတ်အဖွဲ့ အစည်းအဝေးခေါ်ခြင်း

၁၇ (၁) မည်သည့်ဒါရိုက်တာမဆို ဒါရိုက်တာများထံ သို့မဟုတ် ကုမ္ပဏီ၏အတွင်းရေးမှူးမှတဆင့် သို့မဟုတ် မန်နေဂျင်းဒါရိုက်တာထံသို့ စာဖြင့်ရေးသားထားသော အကြောင်းကြားစာ ပေးပို့ခြင်းဖြင့်အစည်းအဝေး ခေါ်နိုင်သည်။

၁၇ (၂) ဘုတ်အဖွဲ့အစည်းအဝေး အကြောင်းကြားစာကို အောက်ပါအကြောင်းအရာများကို ဖော်ပြရမည်

(က) အစည်းအဝေးကျင်းပမည့် အချိန်နှင့် နေ့စွဲ

(ခ) ကျင်းပမည့်နေရာနှင့်

(ဂ) ဒါရိုက်တာများ အစည်းအဝေးတွင်တက်ရောက်ခြင်းသည် မတူညီသည့်နေရာတွင် ဖြစ်သည်ဟုထင်မြင်ယူဆလျှင် ၎င်းအစည်းဝေးအတွင်း တစ်ဦးနှင့်တစ်ဦး မည်ကဲ့သို့ဆက်သွယ်ကြမည်ကိုဖော်ပြပါရှိရမည်။

၁၇ (၃) ဘုတ်အဖွဲ့အစည်းအဝေး အကြောင်းကြားစာကို ဒါရိုက်တာတစ်ဦးစီတိုင်းအားပေးပို့ရမည်။ သို့သော် ယင်းကိုစာဖြင့်ရေးသားထားရန်မလိုအပ်ပေ။

၁၇ (၄) ဒါရိုက်တာများအစည်းအဝေး နို့တစ်စာသည် ထိုအစည်းအဝေးအတွက် နို့တစ်စာပေးရန်မလိုအပ်သော ဒါရိုက်တာများအား ပေးပို့စရာမလိုပါ၊ ထိုအစည်းအဝေးကိုကျင်းပပြီး ခုနစ်ရက်ထက် မပိုသောကာလတွင် ပေးပို့ထားသော ထိုနို့တစ်စာသည် အတည်ဖြစ်သည်။ အစည်းအဝေးကျင်းပပြီးနောက် ပေးပို့ထားသော နို့တစ်စာသည် အစည်းအဝေးအတွက်သော်လည်းကောင်း သို့မဟုတ် လုပ်ငန်းဆောင်ရွက်မှုအတွက် သော်လည်းကောင်း အတည်မဖြစ်စေရ။

## ၁၈။ ဘုတ်အဖွဲ့အစည်းအဝေးများတွင် ပါဝင်ခြင်း

၁၈ (၁) သင်းဖွဲ့စည်းမျဉ်းအရ ဘုတ်အဖွဲ့အစည်းအဝေးတစ်ခုလုံး သို့မဟုတ် အစည်းအဝေးတစိတ်တပိုင်းတွင် ပါဝင်သော ဒါရိုက်တာများသည် –

(က) သင်းဖွဲ့စည်းမျဉ်းများနှင့် လိုက်လျောညီထွေစွာ အစည်းအဝေးခေါ်ဆိုကျင်းပပြီးနှင့်

(ခ) အစည်းအဝေးတွင် လုပ်ငန်း၏ အထူးအချက်အလက်အပေါ် သူတို့၏ယူဆချက်များ သို့မဟုတ် သတင်းအချက်အလက်များကို ပြောဆိုမှုဝေနိုင်ပါသည်။

၁၈ (၂) ဘုတ်အဖွဲ့အစည်းအဝေးတွင် ဒါရိုက်တာများပါဝင်ခြင်းရှိမရှိဆုံးဖြတ်ရာတွင် ဒါရိုက်တာများ မည်သည့်အရပ်ဒေသတွင်ရှိသည် သို့မဟုတ် တစ်ဦးနှင့်တစ်ဦးမည်သို့ ဆက်သွယ်သည်နှင့် သက်ဆိုင်ခြင်းမရှိပါ။

၁၈ (၃) ဒါရိုက်တာများအားလုံး အစည်းအဝေးတွင်ပါဝင်ခြင်းသည် တူညီသည့်နေရာတွင် ကျင်းပခြင်းမဟုတ်လျှင် အခြားနေရာတွင် ကျင်းပသည်ဟု သတ်မှတ်ဆုံးဖြတ်နိုင်သည်။

## ၁၉။ ဘုတ်အဖွဲ့အစည်းအဝေးများထမြောက်ရန်အနည်းဆုံးလူဦးရေ

၁၉ (၁) အခြားအစည်းအဝေးခေါ်ယူခြင်း အဆိုမှလွဲ၍ အစည်းအဝေးတွင် အစည်းအဝေးထမြောက်ရန် လိုအပ်သည့်အနည်းဆုံးလူဦးရေ မတက်ရောက်နိုင်လျှင် မည်သည့်အဆိုကိုမျှ မဲပေး၍မရပါ။

၁၉ (၂) ဘုတ်အဖွဲ့အစည်းအဝေး ထမြောက်ရန်လိုအပ်သည့် အနည်းဆုံးလူဦးရေကို ရှယ်ယာရှင်များ၏ သဘောတူညီချက်ဖြင့် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်နိုင်သည်၊ သို့သော် ကုမ္ပဏီများအက်ဥပဒေအရ ခွင့်ပြုချက်နှင့် ရှယ်ယာရှင်များ၏သဘောတူညီချက်အရမှလွဲ၍ (၃)ဦးထက်မနည်းစေရ။

၁၉ (၃) အကယ်၍ ထိုအချိန်အတွင်းတွင်ဒါရိုက်တာများ၏ စုစုပေါင်းအရေအတွက်သည် အနည်းဆုံးလူဦးရေ ကန့်သတ်လူဦးရေထက်နည်းလျှင် ဒါရိုက်တာများသည် အစုရှယ်ယာရှင်များမှ နောက်ထပ်ဒါရိုက်တာများ ခန့်အပ်ရန်နိုင်ရန်အလို့ငှာ အထွေထွေအစည်းဝေးခေါ်ယူခြင်း ဆိုင်ရာဆုံးဖြတ်ချက်မှလွဲ၍ မည်သည့် ဆုံးဖြတ်ချက်ကိုမျှ မချမှတ်နိုင်ပါ။

## ၂၀။ ဘုတ်အဖွဲ့အစည်းအဝေးများ၌ သဘာပတိဆောင်ရွက်ခြင်း

၂၀ (၁) အစုရှယ်ယာရှင်များသည် ဒါရိုက်တာတစ်ဦးဦးကို အစည်းဝေးများ၌သဘာပတိအဖြစ် ဆောင်ရွက်ရန် ခန့်အပ်နိုင်သည်။

၂၀ (၂) အဆိုပါရွေးချယ်ခံရသည့်ပုဂ္ဂိုလ်ကို သဘာပတိဟုခေါ်သည်။

၂၀ (၃) အစုရှယ်ယာရှင်များသည် သဘာပတိခန့်အပ်ခြင်းကို သာမန်ဆုံးဖြတ်ချက်ဖြင့် အချိန်မရွေး ရုပ်စဲနိုင်သည်။

၂၀ (၄) ဘုတ်အဖွဲ့အစည်းအဝေးတွင် သဘာပတိသည် အစည်းအဝေးစတင်ရန် မိနစ်သုံးဆယ်အထိ ရောက်လာခြင်းမရှိပါက ဒါရိုက်တာများသည် အစည်းအဝေးတက်ရောက်နေသည့် ဒါရိုက်တာများထဲမှ တစ်ဦးဦးကို သဘာပတိအဖြစ် ခန့်အပ်နိုင်သည်။

## ၂၁။ ဆုံးဖြတ်မဲ

အဆိုပြုချက်အပေါ် ထောက်ခံမဲနှင့် ကန့်ကွက်မဲတို့တူညီနေလျှင် သဘာပတိ သို့မဟုတ် ဒါရိုက်တာတွင် ဆုံးဖြတ်မဲပေးပိုင်ခွင့်မရှိပါ။

## ၂၂။ အကျိုးစီးပွားပဋိပက္ခ

၂၂(၁) အပိုဒ်၂၂(၂)နှင့်သက်ဆိုင်သည်မှလွဲ၍ ဒါရိုက်တာများ၏ အဆိုပြုဆုံးဖြတ်ချက်သည် အမှန်တကယ်ဆောင်ရွက်နေသောလုပ်ငန်း သို့မဟုတ် အဆိုပြုလုပ်ငန်း သို့မဟုတ် ဒါရိုက်တာစိတ်ဝင်စားနေသည့် ကုမ္ပဏီ၏အစီအစဉ်နှင့် ပတ်သက်၍စိတ်ပါဝင်စားမှုရှိသော ဒါရိုက်တာသည် အနည်းဆုံးကန့်သတ်လူဦးရေ၏ ဆုံးဖြတ်ချက်ချမှတ်ခြင်းတွင် သို့မဟုတ် မဲပေးခြင်းကိစ္စရပ်များတွင် ထည့်သွင်းရေတွက်ခြင်းမပြုရ။

၂၂(၂) ကုမ္ပဏီမှ အမှန်တကယ်ဆောင်ရွက်နေသောလုပ်ငန်း သို့မဟုတ် အဆိုပြုလုပ်ငန်း သို့မဟုတ် ကုမ္ပဏီ၏ အစီအစဉ်နှင့်ပတ်သက်နေ၍ စိတ်ပါဝင်စားမှုရှိသော ဒါရိုက်တာသည် အနည်းဆုံး ကန့်သတ်လူဦးရေ၏ ဆုံးဖြတ်ချက်ချမှတ်ခြင်းတွင် သို့မဟုတ် မဲပေးခြင်းကိစ္စရပ်များ ဆောင်ရွက်ရာ တွင်–

(က) အပိုဒ်၂၂(၁)ဖော်ပြချက်အရ ကုမ္ပဏီသည် သာမန်ဆုံးဖြတ်ချက်အားဖြင့် ဆုံးဖြတ်ချက် ချမှတ်ခြင်းဖြစ်စဉ်တွင် ပါဝင်သည်ဟု ထည့်သွင်း ရေတွက်ခြင်းမှ ကာကွယ်ပေးသည့် သင်းဖွဲ့စည်းမျဉ်းများ၏ ပြဋ္ဌာန်းချက် အပေါ် အကျိုးမသက်ရောက်ပေ။

(ခ) ဒါရိုက်တာ၏ စိတ်ပါဝင်စားမှုသည် ကျိုးကြောင်းဆီလျော်မှုမရှိသည်ဟု သတ်မှတ်ပြီး စိတ်ပါဝင်စားမှုကို သဘောထားကွဲလွဲမှုကို ဖြစ်သည် ဟုယူဆလျှင်၊

(ဂ) ဒါရိုက်တာ၏အကျိုးစီးပွားပဋိပက္ခသည် ခွင့်ပြုထားသောအကြောင်းတရား မှ ဖြစ်နေလျှင်၊

၂၂(၃) ဤအပိုဒ်၏ရည်ရွယ်ချက်အလို့ငှာ၊ အောက်ဖော်ပြပါတို့သည် ခွင့်ပြုထားသောကိစ္စရပ်များ ဖြစ်သည်–

(က) ဒါရိုက်တာမှ သို့မဟုတ် ဒါရိုက်တာသို့ ကုမ္ပဏီကိုယ်စား သို့မဟုတ် ၎င်း၏ လက်အောက်ခံကုမ္ပဏီမှ တာဝန်နှင့်ပတ်သက်၍ အာမခံချက်ပေးရန် သို့မဟုတ် အာမခံချက်ပေးခံရရန်နှင့်

(ခ) ကုမ္ပဏီ၏ အလုပ်ရှင်များနှင့် ဒါရိုက်တာများ သို့မဟုတ် ယခင်အလုပ်ရှင်များ သို့မဟုတ် ယခင်ဒါရိုက်တာများ သို့မဟုတ် လက်အောက်ခံကုမ္ပဏီမှ အထူးခံစားခွင့်ပေးမထားသော ဒါရိုက်တာများ သို့မဟုတ် ယခင်ဒါရိုက်တာများ၏ အကျိုးအလို့ငှာ စီမံဆောင်ရွက်သော ကိစ္စရပ်များ။

၂၂(၄) သင်းဖွဲ့စည်းမျဉ်း၏ ရည်ရွယ်ချက်အလို့ငှာ အဆိုပြုဆုံးဖြတ်ချက်များနှင့် ဆုံးဖြတ်ချက် ချမှတ်ခြင်း လုပ်ငန်းစဉ်တို့သည် ဘုတ်အစည်းအဝေးတွင် သို့မဟုတ် ၎င်း၏တစိတ်တပိုင်း အဖြစ်ပါဝင်သည်။

၂၂(၅) အပိုဒ်၂၂(၆)အရ မဲပေးခြင်းအတွက် သို့မဟုတ် အစည်းအဝေးထမြောက်ရန်လိုအပ်သော အနည်းဆုံးလူဦးရေကိစ္စရပ်တို့နှင့်ပတ်သက်၍ ဒါရိုက်တာများအစည်းအဝေးတွင် သို့မဟုတ် ဒါရိုက်တာများ ကော်မတီ၏အစည်းအဝေးတွင် (သို့မဟုတ် အစည်းအဝေး၏တစိတ်တဒေသ) တက်ရောက်ခွင့်နှင့်ပတ်သက်၍ အငြင်းပွားမှုပေါ်ပေါက်ခဲ့သော် အစည်းအဝေးမပြီးဆုံးခင်တွင် ဒါရိုက်တာများနှင့်ပတ်သက်ပြီး အခွင့်အာဏာရှိသော သဘာပတိထံတင်ပြရမည်ဖြစ်ပြီး ထိုနောက်သဘာပတိ၏ ဆုံးဖြတ်ချက်သည် နောက်ဆုံးနှင့်အတည်ဖြစ်စေရမည်။

၂၂(၆) အစည်းအဝေး (သို့မဟုတ် အစည်းအဝေး၏တစိတ်တဒေသ)တွင် သဘာပတိမှအစည်းအဝေး တက်ရောက်ခွင့်ကိစ္စရပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတရာပေါ်ပေါက်ခဲ့လျှင် ယင်းပြဿနာကို အဖွဲ့ဝင်များ၏ သာမန်ဆုံးဖြတ်ချက်အားဖြင့်ဆုံးဖြတ်ရမည်။

## ၂၃။ သိမ်းထားရမည့် ဆုံးဖြတ်ချက်မှတ်တမ်းများ

ဒါရိုက်တာများမှဆုံးဖြတ်ထားသည့် မည်သည့်ဆုံးဖြတ်ချက်များကိုမဆို ဆုံးဖြတ်ချက်စတင် မှတ်တမ်းတင်သည့်နေ့မှစ၍ အနည်းဆုံး (၁၀)နှစ်အတွင်း စာဖြင့်ရေးသား၍ ကုမ္ပဏီမှမှတ်တမ်း ထားရှိထားသည်ကို ဒါရိုက်တာများမှနေ၍ သေချာအောင်ဆောင်ရွက်ရမည်။

## ၂၄။ နောက်ထပ်စည်းမျဉ်းများ ချမှတ်နိုင်သော ဒါရိုက်တာများ၏ ကိုယ်ပိုင်ဆုံးဖြတ်ချက်

ဤအပိုဒ်နှင့် အဖွဲ့ဝင်များအကြားရှိ သဘောတူညီချက်တို့နှင့်ပတ်သက်၍ ဒါရိုက်တာများသည် ၎င်းတို့မည်သို့ဆုံးဖြတ်ချက်များချမှတ်ရမည်နှင့်ပတ်သက်ပြီး သင့်တော်သော စည်းမျဉ်းများ ကိုချမှတ်နိုင်ပြီး ယင်းစည်းမျဉ်းများကို မည်ကဲ့သို့မှတ်တမ်းထားရှိရမည်နှင့် ၎င်းတို့အချင်းချင်း မည်ကဲ့သို့ဆက်သွယ် အကြောင်းကြားရမည်ကိုဆုံးဖြတ်ရမည်။

# အပိုင်း ၃
# အစုရှယ်ယာများနှင့် အစုရှယ်ယာဝေမျှခြင်းများ

### အစုရှယ်ယာများ

## ၂၅။ အစုရှယ်ယာများထုတ်ဝေခြင်း

အစုရှယ်ယာများကို အပြီးသတ်ပေးချေခြင်း၊ တစ်ဝက်ပေးချေခြင်းနှင့် ပေးချေမှုမရှိသောရှယ်ယာ များဟူ၍ ထုတ်ဝေနိုင်သည်။

## ၂၆။ အစုရှယ်ယာများအပေါ်တောင်းခေါ်ခွင့်

၂၆(၁) ဘုတ်အဖွဲ့သည် အစုရှယ်ယာရှင်များ၏ ရှယ်ယာများအပေါ်ပေးချေခြင်း မရှိသေးသောငွေများ သူတို့၏ရှယ်ယာများအပေါ် (ပရီမီယမ် (သို့) အနိမ့်ဆုံးတန်ဖိုး တစ်ခုမဟုတ်တစ်ခုသော်လည်း ကောင်း)နှင့် အစုရှယ်ယာရှင်များအားလုံးသည် (ပေးချေရမည့်ရက် နှင့် အနည်းဆုံး၁၄ရက်အတွင်း အပြီးပေးချေရမည့် ကိစ္စနှင့်ပတ်သက်၍) ၎င်းရှယ်ယာအပေါ်ပေးရန် ကုမ္ပဏီမှ ကြေညာထားသည့် အတိုင်း ပေးချေရန်လိုအပ်သည်၊ ယင်းကို အရစ်ကျပေးချေနိုင်သည်။ တောင်းခေါ်ထားသော အစုရှယ်ယာများကို ကုမ္ပဏီမှတန်ဖိုးတစ်စုံတစ်ရာ

လက်ခံခြင်းမရှိမှီ တစ်ခုလုံး သို့မဟုတ် တစိတ်တဒေသကို ပယ်ဖျက်နိုင်သည်။ ရှယ်ယာထည့်ဝင်ရန် တောင်းခေါ်ခြင်းနှင့်ပတ်သက်၍ နောက်နောင်လွဲပြောင်းမှုပြုရာတွင် တောင်းခေါ်ခံရသော ပုဂ္ဂိုလ်အပေါ် ပူးတွဲတာဝန်ရှိစေရန်နှင့် ၎င်း၏ အမွေစားအမွေခံများမှလည်း ၎င်းရှယ်ယာအပေါ်ရပိုင်ခွင့်ရှိစေရမည်။

၂၆(၂) ဖိတ်ခေါ်ထားသော အစုရှယ်ယာများကို ဘုတ်အဖွဲ့ ခွင့်ပြုပြီးမှသာ ဆောင်ရွက်သည်ဟူ၍ မှတ်ယူရမည်။

၂၆(၃) တောင်းခေါ်ထားသော အစုရှယ်ယာများအပေါ် တန်ဖိုးနှုန်းထား သတ်မှတ်ထားခြင်းမရှိမှီ သို့မဟုတ် စီးပွားဖြစ်မည့် သင့်လျော်သောနှုန်းထား သို့မဟုတ် ပုံသေနှုန်းထားသတ်မှတ်ထားခြင်း မရှိလျှင် သို့မဟုတ် တန်ဖိုးငွေပေးချေရမည့်သူမှ မိမိပေးချေရန်ရှိသည့်ရက်တွင် ပေးချေခြင်း မရှိသေးလျှင် ဘုတ်အဖွဲ့မှပေးချေရမည့် နှုန်းထားတစ်ခုလုံး သို့မဟုတ် တစိတ်တဒေသကို လျှော့ပေါ့ပေးနိုင်သည်။

၂၆(၄) ရှယ်ယာအပေါ်ပေးချေရမည့် ပမာဏနှင့်ပတ်သက်၍ သတ်မှတ်ကာလ သို့မဟုတ် သတ်မှတ်ဝေစုအပေါ် ပေးချေရမည့် တောင်းခေါ်ထားသော အစုရှယ်ယာများအပေါ် အရစ်ကျပေးချေခြင်း သို့မဟုတ် အနည်းဆုံးတန်ဖိုးတစ်ခုခုကို တောင်းခေါ်သည့် ရှယ်ယာများဟု မှတ်ယူရန်နှင့် အကယ်၍ တောင်းခေါ်ထားခြင်းကြောင့် ပေးချေရန် အချိန်စေ့ရောက်လာသောအခါ ဤအခန်းပါပြဋ္ဌာန်းချက်များနှင့် သက်ဆိုင်စေရမည်။

၂၆(၅) အဖွဲ့ဝင်များ၏ သာမန်ဆုံးဖြတ်ချက်နှင့်ပတ်သက်၍ ၎င်းတို့ဖိတ်ခေါ်ထားသော အစုရှင်များ အကြား ပေးချေရမည့်ပမာဏ၊ အချိန် စသည့်တို့တူညီမှုမရှိလျှင် ဘုတ်အဖွဲ့မှ၎င်းတို့ ထုတ်ဝေသော ရှယ်ယာများအပေါ် စီမံမှုများကို ဆောင်ရွက်နိုင်သည်။

၂၆(၆) ၎င်းအဖွဲ့ဝင်များနှင့် ဘုတ်အဖွဲ့နှစ်ဖက်စလုံးမှ ကုမ္ပဏီ၏ အထွေထွေအစည်းဝေးမှ ညွှန်ကြားချက်များအရ သင့်လျော်သောအတိုးနှုန်း သို့မဟုတ် သဘောတူထားသော နှုန်းထားများနှင့် ပတ်သက်၍ ဘုတ်အဖွဲ့မှ ၎င်းတို့ဆုံးဖြတ်ထားသော ပေးချေမှုမပြုရသေးသော အစုရှယ်ယာများ အပေါ်နှင့် ဖိတ်ခေါ်ထားခြင်းမရှိသော ရှယ်ယာများမှငွေများကို မည်သည့်အစုရှယ်ယာရှင်မှမဆို တန်ဖိုးအားလုံး သို့မဟုတ် တစိတ်တဒေသကို ဆန္ဒအလျောက် ကြိုတင်ပေးချေမှုများကို သင့်သည်ထင်လျှင်လက်ခံနိုင်ပြီး ၎င်းကြိုတင်ပေးငွေများတချို့နှင့် အားလုံး (ကြိုတင်ပေးငွေများကို လက်ငင်းပေးခြင်းနှင့် တူညီသည့်ကာလမတိုင်မှီအထိ) သင့်သည်ထင်လျှင်လက်ခံနိုင်သည်။

## ၂၇။ အစုရှယ်ယာများကိုသိမ်းယူခြင်း

၂၇(၁) ပေးချေရန် အချိန်စေ့လျက် မပေးချေရသေးဘဲရှိနေသော ဖိတ်ခေါ်ထားသော ရှယ်ယာများ ရှိလျှင် ဘုတ်အဖွဲ့မှနေ၍ ၎င်းကျန်ရှိသောသူထံ ၁၄ရက်ထက်နောက်မကျစေဘဲ ပေးချေစေရန် အကြောင်းကြားစာ ပေးပို့နိုင်သည်၊ ၎င်းအကြောင်းကြားစာတွင် ရရှိနိုင်ခြေရှိသောအကျိုးအမြတ်များအပါအဝင် ၎င်းပေးချေခြင်းမရှိခြင်းအတွက် ကုမ္ပဏီမှကျခံရသော အသုံးစရိတ်များ ထည့်သွင်း ဖော်ပြရန်လိုအပ်သည်၊ ၎င်းအကြောင်းကြားစာတွင် ပေးချေမှုပြုလုပ်ရမည့် နေရာ၊ အမည်နှင့် ၎င်းရှယ်ယာနှင့်ပတ်သက်၍ ၎င်းရှယ်ယာသည် ဖိတ်ခေါ်ထားသော ရှယ်ယာအပေါ် သိမ်းယူရန် တာဝန်ရှိမရှိကို ဖော်ပြထားရမည်။

၂၇(၂) အကယ်၍ ဖော်ပြထားသော အကြောင်းကြားစာသည် ပေးချေရမည့် ရှယ်ယာနှင့်ပတ်သက်၍ ပေးချေမှုပြုလုပ်ရန် အကြောင်းကြားစာပေးပို့ခြင်းမတိုင်ခင် ရှယ်ယာရှင်များ၏ဆုံးဖြတ်ချက်ဖြင့် သိမ်းယူရန်နှင့် ထိုသိမ်းယူခြင်းတွင် အစုအမြတ်များ သို့မဟုတ် သိမ်းယူချက်နှင့်ဆိုင်သော အခြားပေးချေရန်ရှိသည်များကို ပါဝင်ရမည့်နှင့် ၎င်းတို့ကို သိမ်းယူခြင်းမရှိမှီ ပေးချေရန်မလိုပေ၊ ဘုတ်အဖွဲ့မှနေ၍ ရှယ်ယာများ သိမ်းယူရန်

သဘောတူထားသော စည်းမျဉ်းစည်းကမ်းများကို လက်ခံရန်နှင့် ၎င်းစည်းကမ်းချက်နှင့် ပတ်သက်၍ ရုပ်သိမ်းပြီးရှယ်ယာဖြစ်လျှင် ဆန္ဒအလျောက် စွန့်လွှတ်သော ရှယ်ယာများအဖြစ်မှတ်ယူရမည်။

၂၇(၃) အထက်ဆိုခဲ့သောရှယ်ယာကို ၎င်းအပေါ် ဘုတ်အဖွဲ့များမှ ဆုံးဖြတ်ထားထားသည့်အတိုင်း စွန့်လွှတ်ပြီးသောရှယ်ယာများကို ယခင်စွန့်လွှတ်ခဲ့သော သူထံသို့လည်းကောင်း အခြားမည်သည့် ပုဂ္ဂိုလ်ထံသို့မဆို ပြန်လည်ခွဲဝေပေးနိုင်သည် သို့မဟုတ် ပြန်လည်ရောင်းချနိုင်ပါသည် သို့မဟုတ် ရောင်းချခြင်းမရှိမှီ၊ ပြန်လည်ခွဲဝေခြင်းမရှိမှီ သို့မဟုတ် အခြားသိမ်းယူခြင်းနည်းလမ်းတို့ဖြင့် ဘုတ်အဖွဲ့မှ သင့်သည်ထင်သည့်အတိုင်း ဆုံးဖြတ်နိုင်သည်။

၂၇(၄) အစုရှယ်ယာ သိမ်းယူခြင်းခံရသောမည်သူမဆို အဖွဲ့ဝင်အဖြစ်မှ ရပ်နားစေရမည်ဖြစ်ပြီး အဆိုပါပယ်ဖျက်ပြီးသော အစုရှယ်ယာလက်မှတ်ကို ကုမ္ပဏီသို့ပြန်လည်အပ်နှံစေရမည်၊ အကယ်၍ အစုရှယ်ယာကို ရုပ်သိမ်းပြီးဖြစ်သော်လည်း ယင်းတို့ကိုရုပ်သိမ်းသည့်နေ့တွင် ၎င်းမှကုမ္ပဏီထံသို့ ပေးရမည့်ငွေများကျန်နေသေးလျှင် ယင်းငွေများကို အစုရှယ်ယာ မသိမ်းယူသေးခင် ကုမ္ပဏီသို့ ပေးသွင်းစေရမည် သို့မဟုတ် အကယ်၍ အကျိုးအမြတ်များပေးသွင်းရန်ရှိလျှင် သင့်လျော်သော အချိန်တွင်ကုမ္ပဏီသို့ပေးချေရမည်။

၂၇(၅) ဒါရိုက်တာ(၃)ဦး၏ ကြေညာချက်အရ ကုမ္ပဏီ၏အကျိုးရှိစေရန်အလို့ငှာ ရောင်းချသော သို့မဟုတ် ရုပ်သိမ်းခဲ့သော ရှယ်ယာများကို သတ်မှတ်ထားသော ကာလအတွင်း ရှယ်ယာအပေါ် ရထိုက်ခွင့်ရှိသော ပုဂ္ဂိုလ်များအားလုံး၏ တောင်းဆိုချက်အရ လုံလောက်သော အကြောင်းပြချက် နှင့်အညီ ရှယ်ယာအပေါ် ရပိုင်ခွင့်ကို တောင်းနိုင်ပြီး ၎င်းကြေညာချက်တွင် (ပစ္စည်းများလွှဲပြောင်းခြင်း ဆုံးဖြတ်ချက်ကို လိုအပ်လျှင်ထည့်သွင်းရမည်)။

## ၂၈။ အမျိုးမျိုးသော ရှယ်ယာများထုတ်ဝေခွင့်အခွင့်အာဏာ

၂၈(၁) လက်ရှိတည်ရှိနေသော အစုရှယ်ယာများအတွက် ပြဋ္ဌာန်းထားသော အခွင့်အရေးများ မထိခိုက်စေဘဲ ကုမ္ပဏီမှရှယ်ယာများကို သာမာန်ဆုံးဖြတ်ချက်အရ ဆုံးဖြတ်ထားသော ကန့်သတ် ချက်များ သို့မဟုတ် အခွင့်အရေးများနှင့်အတူထုတ်ဝေရမည်။

၂၈(၂) ပြန်လည်ဝယ်ယူနိုင်သောအစုရှယ်ယာများ သို့မဟုတ် ကုမ္ပဏီမှ သို့မဟုတ် အစုရှင်မှ ပြန်လည်ဝယ်ယူခွင့်ရှိသော ရှယ်ယာများကို ကုမ္ပဏီမှထုတ်ဝေနိုင်သည်ပြီး ၎င်းပြန်လည်ဝယ်ယူနိုင် သော ရှယ်ယာနှင့်ပတ်သက်၍ လိုအပ်သော စည်းမျဉ်းစည်းကမ်းများကို ဒါရိုက်တာများမှ ဆုံးဖြတ်ရမည်။

## ၂၉။ သီးသန့်အကျိုးစီးပွားအတွက် ကုမ္ပဏီတွင်တာဝန်မရှိခြင်း

ဥပဒေအရလိုအပ်သည်မှလွဲ၍ မည်သူမည်မျှ တာဝန်တစ်ခုခု၏ယုံမှတ်အပ်နှံခြင်းခံရသူထံတွင်ရှိသော အစုရှယ်ယာအတွက် ကုမ္ပဏီတွင်တာဝန်မရှိစေရ။ အစုရှယ်ယာအပေါ်ဖော်ပြထားသော ပိုင်ဆိုင်မှုမှလွဲ၍ ရှယ်ယာပေါ်ရှိ အကျိုးစီးပွားအတွက် ကုမ္ပဏီတွင်တာဝန်မရှိစေရ။

## ၃၀။ အစုရှယ်ယာလက်မှတ်များ

၃၀(၁) ကုမ္ပဏီမှနေ၍ ရှယ်ယာရှင်အသီးသီးတို့အား အစုရှယ်ယာနှင့်စပ်လျဉ်း၍ အစုရှယ်ယာ လက်မှတ်များ တစ်ခု သို့မဟုတ် တစ်ခုထက်ပိုသောလက်မှတ်များကို အခကြေးငွေမယူဘဲ ထုတ်ပေး ရမည်။

၃၀ (၂) အစုရှယ်ယာလက်မှတ်တိုင်းတွင် အောက်ပါတို့ကို သတ်မှတ်ရမည် –

(က) အစုရှယ်ယာများနှင့်ပတ်သက်၍ မည်သည့်အမျိုးအစားများ၊ မည်သူကထုတ်ပေးသည့်တို့နှင့် ပတ်သက်၍၊
(ခ) ထိုအစုရှယ်ယာများ၏ အနည်းဆုံးတန်ဖိုး၊
(ဂ) အစုရှယ်ယာများအပေါ်ပေးချေခဲ့သော တန်ဖိုးပမာဏ၊
(ဃ) ၄င်းတို့အပေါ်ပေးအပ်ထားသော သီးခြားအမှတ်စဉ်များ၊

၃၀ (၃) အစုရှယ်ယာအတန်းအစား တစ်ခုထက်ပိုသော အစုရှယ်ယာများအတွက် မည်သည့်လက်မှတ်မျှ ထုတ်ပေးခြင်းမပြုရ။

၃၀ (၄) အကယ်၍ တစ်ယောက်ထက်ပိုသောသူက အစုရှယ်ယာတစ်ခုကို လက်ဝယ်ပိုင်ဆိုင်လျှင် ၎င်းနှင့်ပတ်သတ်သည့်အစုရှယ်ယာအတွက် အစုရှယ်ယာလက်မှတ်တစ်ခုသာ ထုတ်ပေးရပါမည်။

၃၀ (၅) အစုရှယ်ယာလက်မှတ်များသည်–
(က) ကုမ္ပဏီ၏ကိုယ်ပိုင်တံဆိပ်ခပ်နှိပ်ထားရမည်၊ သို့မဟုတ်
(ခ) တနည်းအားဖြင့် ကုမ္ပဏီများအက်ဥပဒေနှင့်လိုက်လျောညီထွေမှုရှိရမည်။

## ၃၁။ အစုရှယ်ယာလက်မှတ်များအစားထိုးခြင်း

၃၁ (၁) အကယ်၍ အစုရှယ်ယာရှင်၏ ရှယ်ယာများနှင့်ပတ်သတ်၍ ထုတ်ပေးခဲ့သည့်အစုရှယ်ယာလက်မှတ်သည် –

(က) ပျက်စီးခဲ့လျှင် သို့မဟုတ် မှေးမှိန်ပျက်ပြားလျှင် သို့မဟုတ်

(ခ) ပျောက်ဆုံး၊ ခိုးယူခြင်းခံရလျှင် သို့မဟုတ် ဖျက်ဆီးခြင်းခံရသည်ဟုဆိုလျှင် အဆိုပါအစုရှယ်ယာရှင်သည် ၎င်းအစုရှယ်ယာများအတွက် အစားထိုးလက်မှတ်ထုတ်ယူ နိုင်သည်။

၃၁ (၂) အစားထိုးခံရသော အစုရှယ်ယာလက်မှတ်များအတွက် အစုရှယ်ယာရှင်ဖက်မှ ပြန်လည် ထုတ်ဝေရန် ကျင့်သုံးနိုင်သောခွင့်အရေးများ–

(က) တစ်ချိန်တည်းတွင် သီးခြားလက်မှတ်များ သို့မဟုတ် လက်မှတ်တစ်ခုတည်းအဖြစ် ထုတ်ဝေရာတွင် လုပ်ပိုင်ခွင့်များကိုကျင့်သုံးခြင်း

(ခ) အကယ်၍ ၎င်းသည်ပျက်စီးခဲ့လျှင် သို့မဟုတ် မှေးမှိန်ပျက်ပြားလျှင် ကုမ္ပဏီသို့ အစားထိုးလဲလှယ်ရသည့်လက်မှတ်အား ကုမ္ပဏီသို့အပ်နှံရမည်။

(ဂ) ဒါရိုက်တာများမှဆုံးဖြတ်ထားသည့် စည်းကမ်းအတိုင်း သက်သေခံအဖြစ်၊ လျော်ကြေးနှင့် သင့်လျော်သော ပေးချေမှုအားလုံးကိုလိုက်နာရမည်။

## ၃၂။ အစုရှယ်ယာ လွှဲပြောင်းခြင်းများ

၃၂(၁) အစုရှယ်ယာများသည် အစုရှယ်ယာလွှဲပြောင်းရာတွင် သာမန်လွှဲပြောင်းခြင်းနည်းလမ်းအားဖြင့်လည်းကောင်း သို့မဟုတ် လွှဲပြောင်းသူကိုယ်စား ပါဝင်ဆောင်ရွက်သော ဒါရိုက်တာများမှ အတည်ပြုသော အခြားနည်းလမ်းဖြင့်သော်လည်းကောင်း လွှဲပြောင်းနိုင်သည်။

၃၂(၂) လွှဲပြောင်းခြင်းနှင့်ဆိုင်သော စာချုပ်စာတမ်းများ သို့မဟုတ် သက်ဆိုင်သော အခြားစာရွက်စာတမ်းများ သို့မဟုတ် ရှယ်ယာပိုင်ဆိုင်မှုတွင် အကျိုးသက်ရောက်နိုင်သော စာရွက်စာတမ်းများ မှတ်ပုံတင်ရာတွင် မည်သည့်အခကြေးငွေမျှ ကုမ္ပဏီအနေဖြင့်ကျခံရန်မလိုပေ။

၃၂(၃) မှတ်ပုံတင်ပြီးသော လွှဲပြောင်းမှုဆိုင်ရာ စာရွက်စာတမ်းများကို ကုမ္ပဏီမှထိန်းသိမ်း ထားရမည်။

၃၂(၄) အဖွဲ့ဝင်မှတ်ပုံတင်စာအုပ်တွင် လွှဲပြောင်းရယူသူ၏ နာမည်ကို မှတ်တမ်းယူ ရေးသားထားခြင်း မရှိသေးသည့်ကာလအတွင်း လွှဲပြောင်းသူသည် ထိုအစုရှယ်ယာ ၏ ပိုင်ရှင်အဖြစ်ရှိနေရမည်။

၃၂(၅)ဒါရိုက်တာများသည် အစုရှယ်ယာလွှဲပြောင်းခြင်းကို မှတ်ပုံတင်ရန်ငြင်းဆန်နိုင်ပြီး အကယ်၍ ထိုသို့မှတ်ပုံတင်ခြင်းကို ဒါရိုက်တာများမှ ငြင်းခဲ့သည်ရှိသော် ဒါရိုက်တာများမှ ထိုလွှဲပြောင်း ပေးခြင်းသည် လိမ်လည်ခြင်းဖြစ်နိုင်သည်ဟု သင်္ကာမကင်းဖြစ်သည်မှလွဲ၍ ထိုလွှဲပြောင်းပေးသော စာရွက်စာတမ်းကို မှတ်ပုံတင်ရန်ငြင်းခဲ့သော အကြောင်းကြားစာနှင့်တကွ လွှဲပြောင်းပေးသူထံသို့ ပေးပို့ပေးရမည်။

## ၃၃။ အစုရှယ်ယာများကိုလွှဲပြောင်းဆက်ခံခြင်း

၃၃(၁) အစုရှယ်ယာပိုင်ဆိုင်ခွင့်ကို ဆက်ခံရရှိသူထံသို့ လွှဲပြောင်းပေးခဲ့လျှင် ထိုဆက်ခံသူတစ်ဦး တည်းကိုသာ ၎င်းရှယ်ယာပေါ် ပိုင်ဆိုင်ခွင့်ရှိသူဖြစ်သည်ဟု ကုမ္ပဏီမှနေ၍ အသိအမှတ်ပြု လက်ခံရမည်။

၃၃(၂) အစုရှယ်ယာအပေါ် ပိုင်ခွင့်ရှိသည်ဟု ဆက်ခံရရှိသူမှ အထောက်အထားသက်သေများ နှင့်တကွ တင်ပြလာလျှင် ဒါရိုက်တာများမှ အောက်ပါတို့ကိုဆောင်ရွက်နိုင်သည်-

(က) ဤအပိုဒ်အရ၊ ၎င်းရှယ်ယာအပေါ် ပိုင်ဆိုင်သူဖြစ်လာစေရန်သော်လည်းကောင်း သို့မဟုတ် အခြားသူတစ်ဦးဦးထံသို့ လွှဲပြောင်းစေရန်သော်လည်းကောင်း ဆုံးဖြတ်နိုင်ပါသည်။

(ခ) ဤအပိုဒ်အရ၊ တခြားသူထံသို့ အစုရှယ်ယာများ လွှဲပြောင်းနေစဉ်အတွင်း ထိုသူသည် ရှယ်ယာရှင်ထံတွင်ရှိသော အခွင့်အရေးများတန်းတူရရှိရမည်။

ခြွင်းချက်အနေဖြင့် ဆက်ခံရှိသူများသည် သူတို့ပိုင်ဆိုင်ခွင့်ရရှိထားသော အစုရှယ်ယာ နှင့်ပတ်သက်၍၊ ရှယ်ယာရှင်သေဆုံးခြင်း သို့မဟုတ် ဒေဝါလီခံရခြင်း သို့မဟုတ် အခြားအကြောင်းချင်းရာများပေါ်ပေါက်သောအခါ၊ ဆက်ခံရရှိသူတို့သည် ကုမ္ပဏီ၏ ရှယ်ယာရှင်အဖြစ် မှတ်ပုံမတင်သေးသမျှကာလပတ်လုံး သင်းလုံးကျွတ်အစည်းအဝေးတွင် တက်ရောက်မဲပေး၍မရပေ သို့မဟုတ် စာဖြင့်ရေးသားထားသည့် အစည်းအဝေးဆုံးဖြတ် ချက်များတွင် သဘောတူပိုင်ခွင့်မရှိပေ။

## ၃၄။ လွှဲပြောင်းဆက်ခံသူများ၏အခွင့်အရေးများကိုကျင့်သုံးခြင်း

၃၄(၁) လွှဲပြောင်းဆက်ခံသူများသည် ၎င်းတို့ပိုင်ဆိုင်ခွင့်ရှိသော ရှယ်ယာများ၏ ရှယ်ယာရှင်ဖြစ်လိုသောစိတ်ဆန္ဒရှိလျှင် ထိုသို့ဆန္ဒရှိကြောင်းကို ကုမ္ပဏီသို့ စာဖြင့်ရေးသားအကြောင်းကြားရမည်။

၃၄(၂) လွှဲပြောင်းဆက်ခံသူသည် အခြားသူထံသို့ အစုရှယ်ယာများလွှဲပြောင်းလိုလျှင် ထိုသူသည် လွှဲပြောင်းခြင်းဆိုင်ရာ စာချုပ်ကိုချုပ်ဆိုရမည်။

၃၄(၃) ဤအပိုဒ်အရ ဆောင်ရွက်ရန်ရှိသော ပြုလုပ်မှု သို့မဟုတ် ချုပ်ဆိုသော မည်သည့်လွှဲပြောင်းမှုကိုမဆို လုပ်ဆောင်ရန်ရှိလျှင် အစုရှယ်ယာနှင့်ပတ်သက်၍ အခွင့်အရေးများ ဆက်ခံရရှိသော လွှဲပြောင်းဆက်ခံသူမှ ၎င်းဆောင်ရွက်မှု သို့မဟုတ် ချုပ်ဆိုမှုကို ဆောင်ရွက်ဘိသကဲ့သို့မှတ်ယူရမည်။

## ၃၅။ ကြိုတင်အကြောင်းကြားစာများဖြင့်သက်ဆိုင်မှုရှိသောလွှဲပြောင်းဆက်ခံသူများ

အစုရှယ်ယာများနှင့်ပတ်သက်၍ အစုရှယ်ယာရှင်များနှင့်အစုရှယ်ယာများကို ရပိုင်ခွင့်ရှိသော လွှဲပြောင်းဆက်ခံသူများထံသို့ နို့တစ်စာပေးပို့ခဲ့လျှင် လွှဲပြောင်းဆက်ခံသူ၏ နာမည် သည် အဖွဲ့ဝင်များစာရင်း၌ မှတ်ပုံတင်ခြင်းမတိုင်ခင် နို့တစ်စာအားဖြင့် အစုရှယ်ယာရှင်များအား ပေးပို့ခဲ့လျှင် လွှဲပြောင်းလက်ခံသူသည် ၎င်းအကြောင်းကြားစာနှင့် သက်ဆိုင်မှုရှိသည်။

## အမြတ်ဝေစုများနှင့် အခြားသော ပေးဝေခြင်းများ

## ၃၆။ အမြတ်ဝေစုများကြေညာခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း

၃၆(၁) အစုရှယ်ယာရှင်များသည် အစုအမြတ်ငွေများကို သာမန်ဆုံးဖြတ်ချက်အားဖြင့် ကြေညာ နိုင်ပြီး ဒါရိုက်တာများမှနေ၍ကြေညာပြီးသော အစုအမြတ်များကို ပေးချေရန် ဆုံးဖြတ်နိုင်သည်။

၃၆(၂) ဒါရိုက်တာများမှ အစုအမြတ်များ၏ပမာဏကို ထောက်ခံချက်မပေးလျှင်အစုအမြတ်ကို ကြေညာခြင်းမပြုရ။ ၎င်းအစုအမြတ်သည် ဒါရိုက်တာများမှ ထောက်ခံချက်ပေးသည့် ပမာဏထက် မကျော်လွန်ရ။

၃၆(၃) အစုရှယ်ယာရှင်များအသီးသီး၏ လုပ်ပိုင်ခွင့်များနှင့် မညီညွတ်လျှင် မည်သည့်အစုအမြတ်မျှ ကြေညာခြင်း သို့မဟုတ် ပေးချေခြင်းမပြုရ။

၃၆(၄) အစုအမြတ်များကိုကြေညာရန် အစုရှယ်ယာရှင်များမှ ဆုံးဖြတ်ချက်မချသေးလျှင် သို့မဟုတ် အစုအမြတ်ကိုပေးချေရန် စည်းမျဉ်းစည်းကမ်းများ မသတ်မှတ်သေးခင်၊ အခြားနည်း သတ်မှတ် ချက်များ မရှိသေးခင်တွင် အစည်းအဝေးဆုံးဖြတ်သည့်နေ့တွင် သို့မဟုတ် ဆုံးဖြတ်ချက်ကြေညာ သည့်အချိန် သို့မဟုတ် အစုရှယ်ယာပေးသည့်နေ့တွင် အစုရှယ်ယာရှင်အသီးသီးသို့ ရှယ်ယာ ပိုင်ဆိုင်မှု အထောက်အထားများ ပေးအပ်ရမည်။

၃၆(၅) ကုမ္ပဏီ၏ မတည်ငွေရင်းကို မတူညီသော အတန်းအစားများခွဲထားခဲ့သည်ရှိသော် အမြတ်ဝေစု ပေးချေသည့်အချိန်တွင် ဦးစားပေးအမြတ်ဝေစုသည် အခွန်မပေးကျန်ငွေအဖြစ်တည်ရှိနေပါက နောက်ချန် အခွင့်အရေး (deferred right) သို့မဟုတ် ဦးစားပေးမဟုတ်သောအခွင့်အရေး (non-preferred right)တို့အတွက် မည်သည့် ဦးစားပေးအမြတ်ဝေစုကိုမျှ ပေးချေခြင်းမပြုရ။

## ၃၇။ အမြတ်ဝေစုများ၏ ပေးချေမှု နှင့်အခြားသောပေးဝေခြင်းများ

၃၇(၁) ရှယ်ယာများနှင့်ပတ်သက်၍ အစုအမြတ်များ သို့မဟုတ် အခြားသောပေးဝေခြင်းများအတွက် ပေးချေရန်ရှိသည့်အခါ အောက်ဖော်ပြပါ နည်းလမ်းတစ်ခု သို့မဟုတ် တစ်ခုထက်ပိုသော နည်းလမ်းများဖြင့် ပေးချေမည် -

(က) ဖြန့်ချိခြင်းကိုလက်ခံသူမှ လက်ရေးစာအားဖြင့်သော်လည်းကောင်း သို့မဟုတ် ဒါရိုက်တာများမှဆုံးဖြတ်သော အခြားနည်းလမ်းဖြင့်သော်လည်းကောင်း သတ်မှတ်ထားသည့် ဘဏ်စာရင်းသို့ လွှဲပေးရန်၊

(ခ) ဖြန့်ချိခြင်းကိုလက်ခံရရှိသူ၏ မှတ်ပုံတင်ထားသည့်နေရပ်လိပ်စာသို့ (ဖြန့်ချိခြင်းကို လက်ခံသူသည် အစုရှယ်ယာရှင်ဖြစ်နေလျှင်) သို့မဟုတ် (အခြားကိစ္စ၌) ဖြန့်ချိခြင်းကို လက်ခံသူမှ စာဖြင့်ရေးသားခြင်းဖြင့်သော်လည်းကောင်း သို့မဟုတ် ဒါရိုက်တာများမှ ဆုံးဖြတ်ခြင်းအားဖြင့် သတ်မှတ်ထားသည့်နေရာသို့ ဖြန့်ချိခြင်းကို လက်ခံသူအား ပေးချေမှုပေးနိုင်စေသည့် ချက်လက်မှတ်ပေးပို့ခြင်း၊

(ဂ) ဖြန့်ချိခြင်းကိုလက်ခံရရှိသူမှ စာဖြင့်ရေးသားခြင်းအားဖြင့်သော်လည်းကောင်း သို့မဟုတ် ဒါရိုက်တာများမှ ဆုံးဖြတ်ခြင်းအားဖြင့် သတ်မှတ်ထားသည့် အဆိုပါပုဂ္ဂိုလ်၏ ထိုလိပ်စာ၌ ဖြန့်ချိခြင်းကို လက်ခံသူအား ပေးချေမှုပေးနိုင်စေသည့် ချက်လက်မှတ်ပေးပို့ခြင်း၊ သို့မဟုတ်

(ဃ) ဒါရိုက်တာများနှင့် ဖြန့်ချိခြင်းကိုလက်ခံသူမှ စာဖြင့်ရေးသားသဘောတူထားသည့် သို့မဟုတ် ဒါရိုက်တာများမှဆုံးဖြတ်သည့် ပေးချေမှုဆိုင်ရာ အခြားနည်းလမ်းများ ဖြင့်။

၃၇(၂) အစုအမြတ် သို့မဟုတ် အခြားပေးချေရန်ပမာဏနှင့်ဆိုင်သော အစုရှယ်ယာအတွက်၊ ဤအပိုဒ်တွင် "ဖြန့်ချိခြင်းကိုလက်ခံသူ" ဆိုသည်မှာ-

(က) အစုရှယ်ယာရှင်သို့မဟုတ်၊

(ခ) အစုရှယ်ယာရှင်များသည် နှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပိုလျှင် ၎င်းတို့မှ အဖွဲ့ဝင် အဖြစ် ပထမဦးစွာမှတ်ပုံတင်သည့် မည်သူမဆိုသို့မဟုတ်၊

(ဂ) အစုရှယ်ယာရှင်သည် သေဆုံးခြင်း သို့မဟုတ် ဒေဝါလီခံရခြင်း အကြောင်းကြောင့် သို့မဟုတ် တစ်နည်းအားဖြင့် ဥပဒေအရတားမြစ်မှုကြောင့် အစုရှယ်ယာအပေါ် ပိုင်ဆိုင်ခွင့်မရှိတော့လျှင်၊ လွှဲပြောင်းလက်ခံသူထံသို့ပေးချေရမည်။

## ၃၈။ အခြားသောပေးဝေခြင်းများအပေါ် အတိုးငွေမရှိခြင်း

အခြားနည်းပြဋ္ဌာန်းထားချက်မရှိလျှင် ကုမ္ပဏီသည် အောက်ပါအခြေအနေတွင်မဟုတ်လျှင် အမြတ်ဝေစုအပေါ် သို့မဟုတ် အခြားပေးချေရန်ရှိသည့်ငွေပမာဏအပေါ် အတိုးငွေ မပေးရန်မလိုအပ် ပေ။

(က) စည်းကမ်းသတ်မှတ်ချက်များဖြင့် အစုရှယ်ယာများထုတ်ပေးခဲ့လျှင် သို့မဟုတ်၊
(ခ) အစုရှယ်ယာရှင်နှင့် ကုမ္ပဏီအကြားသဘောတူထားသော အခြားပြဋ္ဌာန်းချက်များ။

## ၃၉။ တောင်းခံခြင်းမရှိသည့် ပေးဝေခြင်းများ

၃၉ (၁) အောက်ပါအခြေအနေတွင်ရှိသည့် အစုအမြတ်သို့မဟုတ် အခြားငွေပမာဏများအားလုံးကို–

(က) အစုရှယ်ယာများနှင့်ပတ်သက်၍ ပေးချေနိုင်သော နှင့်

(ခ) ပေးချေနိုင်ပြီဖြစ်သော သို့မဟုတ် ကြေညာပြီးဖြစ်သော်လည်း တောင်းခံခြင်းမရှိသေးလျှင်

တောင်းခံခြင်းမရှိသေးသမျှကာလပတ်လုံး ကုမ္ပဏီ၏အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာများမှနေ၍ လုပ်ငန်းအတွက် ရင်းနှီးထဲ့ဝင်နိုင်သည် သို့မဟုတ် အခြားနည်းအသုံးပြုနိုင်ပါသည်။

၃၉ (၂) အမြတ်ဝေစုတချို့ သို့မဟုတ် အခြားပမာဏတစ်ခုခုအတွက် သီးခြားဘဏ်အကောင့်မှာ ပေးချေခြင်းဖြစ်ဖြစ်လျှင် ကုမ္ပဏီအနေဖြင့် ယင်းတို့နှင့်ပတ်သက်ပြီး ထိန်းသိမ်းကြပ်မတ်ရန် တာဝန်မရှိစေရ။

၃၉ (၃) အကယ်၍–

(က) အမြတ်ငွေစု သို့မဟုတ် အခြားငွေပမာဏဆိုင်ရာ ပေးချေရမည့်အချိန်စေ့ရောက်သည့်နေ့မှ (၁၂) နှစ်ကျော်လွန်လျှင်နှင့်၊

(ခ) ပေးဝေခြင်းကိုလက်ခံသူမှ ၎င်းကို တောင်းဆိုခြင်းမပြုလျှင်

ပေးဝေခြင်းကိုလက်ခံသူသည် အမြတ်ဝေစု သို့မဟုတ် အခြားငွေပမာဏအပေါ် ရပိုင်ခွင့်မရှိတော့ဘဲ ယင်းတို့ကို ကုမ္ပဏီပိုင်အဖြစ် ဆက်လက်ကျန်ရှိစေရမည်။

## ၄၀။ ငွေသားဖြင့်မဟုတ်သော ပေးဝေခြင်းများ

ကုမ္ပဏီသည် အမြတ်ဝေစု တစ်စိတ်တပိုင်းကို သို့မဟုတ် အားလုံးကို သို့မဟုတ် အခြားပေးချေရန်ရှိသော ငွေသားမဟုတ်သည့် ထပ်တူတန်ဖိုးရှိသောအစုရှယ်ယာ လွှဲပြောင်းခြင်း နှင့်ပတ်သက်၍ (ရှယ်ယာများသို့မဟုတ် အခြားအာမခံစာချုပ်များ အကန့်အသတ်မရှိပါဝင်သည်) ကုမ္ပဏီမှ ပေးချေရန်မလိုပေ။

## ၄၁။ ပေးဝေခြင်းများကိုစွန့်လွှတ်ခြင်း

ပေးဝေခြင်းကို လက်ခံရရှိသူများသည် ကုမ္ပဏီမှ စာဖြင့်ရေးသား၍ နို့တစ်စာပေးပို့သော အစုရှယ်ယာနှင့်သတ်သက်၍ အမြတ်ဝေစု သို့မဟုတ် ပေးခြေရန်ရှိသော အခြားပေးဝေခြင်းများနှင့် ပတ်သက်သည့် ၎င်းတို့၏ရပိုင်ခွင့်များကို စွန့်လွှတ်နိုင်ပါသည်။ သို့သော် –

(က) အစုရှယ်ယာတစ်ခုအပေါ် ပိုင်ဆိုင်သူအစုရှင်တစ်ဦးထက်ပိုနေလျှင် သို့မဟုတ်၊

(ခ) သေဆုံးခြင်းအကြောင်းကြောင့် သို့မဟုတ် ဒေဝါလီခံရခြင်းကြောင့် တစ်ဦးသို့မဟုတ် တစ်ဦးထက်ပိုသော ဖက်စပ်ပိုင်ဆိုင်သူများ ရှိလာသောအခါ သို့မဟုတ် အခြားကိစ္စရပ်ကြောင့် အစုရှယ်ယာတစ်ခုကို ပုဂ္ဂိုလ်တစ်ဦးမက ပိုင်ဆိုင်သော အခြေအနေတွင်။

ရှယ်ယာရှင်အားလုံး သို့မဟုတ် အစုရှယ်အပေါ် ပိုင်ခွင့်ဆိုင်ခွင့်ရှိသော လူများအားလုံးမှ လက်မှတ်ရေးထိုးခြင်း သို့မဟုတ် အတိအလင်းပေးအပ်ခဲ့သည်မှလွဲ၍ နို့တစ်စာသည် အတည်မဖြစ်စေရ။

## အကျိုးအမြတ်များအပေါ်ရင်းနှီးမတည်ခြင်း

### ၄၂။ ရင်းနှီးမတည်ခြင်းဆိုင်ရာ အခွင့်အာဏာနှင့် ရင်းနှီးမတည်ရန်လျာထားသည့်ငွေပမာဏ

၄၂(၁) သင်းဖွဲ့စည်းမျဉ်းများအရ အကယ်၍ သာမန်ဆုံးဖြတ်ချက်အားဖြင့် လုပ်ပိုင်ခွင့်ရှိခဲ့လျှင် ဒါရိုက်တာများသည်–

(က) ကုမ္ပဏီ၏ အကျိုးအမြတ်များအပေါ် ရင်းနှီးမတည်ရန် (၎င်းတို့သည် ဖြန့်ချိ၍ ရမရ) ဦးစားပေး အစုအမြတ် ပေးရန်မလိုသည့် သို့မဟုတ် အစုရှယ်ယာ၏ ပရီမီယံစာရင်း ဆိုင်ရာ ကုမ္ပဏီ၏ ချေးငွေလက်မှတ်အတွက်ရပ်တည်ပေးသည့် ပမာဏကို ဆုံးဖြတ်ပေးနိုင်သည်၊

(ခ) ရင်းနှီးမတည်ရန် ("အရင်းနှီးပြုသည့် ငွေပမာဏ") ဆုံးဖြတ်ခဲ့သည့် ပမာဏကို ၎င်း၌ခံစားခွင့်ရှိသူများအား အစုအမြတ်ငွေ (စာရင်းဝင်ထားသူ)နှင့် တူညီသည့် အစိတ်အပိုင်းများအား ဖြန့်ချိသည့်ပုံစံဖြင့် ဖြန့်ဝေခဲ့သည့် ငွေပမာဏအား လျာထားနိုင်သည်။

၄၂(၂) ရင်းနှီးမတည်သည့် ငွေပမာဏများသည် အကျိုးသက်ရောက်မှုရှိရပါမည် –

(က) စာရင်းဝင်ထားသူများ၏ ကိုယ်စား နှင့်၊
(ခ) ၎င်းတို့အား ဖြန့်ဝေမည့် အစုအမြတ်အဖြစ် အချိုးအစားများ တူညီစွာ။

၄၂(၃) အရင်းနှီးပြုသည့် ငွေပမာဏသည် ခံစားခွင့်ရှိသူများအား ခွဲဝေပေါင်းထည့်ထားသည့် အရင်းနှီးပြုသည့် ငွေပမာဏနှင့်တူညီသည့် သို့မဟုတ် သူတို့ညွှန်ကြားသည့်အတိုင်း အစုရှယ်ယာ အသစ်၏ အနည်းဆုံးပမာဏပေါင်းထည့်ခြင်းတွင် အကျိုးသက်ရောက် နိုင်သည်။

၄၂(၄) ဖြန့်ချိခြင်းအတွက် ရရှိနိုင်သည့် အကျိုးအမြတ်များမှလျာထားခဲ့သည့် ရင်းနှီးမတည်ငွေ သည် ကုမ္ပဏီ၏ စာရင်းဝင်သူများအား သို့မဟုတ် ဒါရိုက်တာများမှ ညွှန်ကြားသည့်အတိုင်း အပြည့်အဝ ပေးချေမှုအဖြစ် ခွဲဝေထည့်သွင်းပေးသည့် ချေးငွေလက်မှတ်များ ပေါင်းထည့်ခြင်းတွင် အကျိုးသက်ရောက်နိုင်သည်။

၄၂(၅) သင်းဖွဲ့စည်းမျဉ်းများအရ ဒါရိုက်တာများသည် –

(က) သင်းဖွဲ့စည်းမျဉ်းများ ၄၂.၃နှင့် ၄၂.၃အရ တစ်နည်းမဟုတ် အခြားနည်းနှင့် လိုက်လျောညီထွေစွာ မတည်ရင်း နှီးသည့် ငွေပမာဏများကို အသုံးချနိုင်သည်၊

(ခ) သင့်တော်သည်ဟုထင်လျှင် အစုရှယ်ယာ သို့မဟုတ် ဤသင်းဖွဲ့စည်းမျဉ်းအရ ခွဲဝေဖြန့်ချိ၍ရသည့် အစိတ်အပိုင်းများဖြစ်လာသည့် ချေးငွေလက်မှတ်များ (ကဏ္ဍဆိုင်ရာ လက်မှတ်များ ထုတ်ပေးခြင်း သို့မဟုတ် ငွေသားနှင့်ပေးချေမှုများ အပါအဝင်)နှင့် နှီးနှောရာခြင်း ဆိုင်ရာ အစီအမံများ လုပ်ဆောင်နိုင်သည်၊

